## === ၄ - သြက္ကန္တသံယုတ် ===

### ၂ - ရူပသုတ်

၃၀၃။ သာဝတ္ထိနိဒါန်း။ ရဟန်းတို့ အဆင်းတို့သည် မမြဲကုန်၊ ဖောက်ပြန်တတ်ကုန်၏၊ တစ်မျိုးတစ်ဖုံ ဖြစ်တတ်ကုန်၏။ အသံတို့သည် မမြဲကုန်၊ ဖောက်ပြန်တတ်ကုန်၏၊ တစ်မျိုးတစ်ဖုံ ဖြစ်တတ်ကုန်၏။

အနံ့တို့သည် မမြဲကုန်၊ ဖောက်ပြန်တတ်ကုန်၏၊ တစ်မျိုးတစ်ဖုံ ဖြစ်တတ်ကုန်၏။ အရသာတို့သည် မမြဲကုန်၊ ဖောက်ပြန်တတ်ကုန်၏၊ တစ်မျိုးတစ်ဖုံ ဖြစ်တတ်ကုန်၏။ အတွေ့တို့သည် မမြဲကုန်၊ ဖောက်ပြန်တတ်ကုန်၏၊ တစ်မျိုးတစ်ဖုံ ဖြစ်တတ်ကုန်၏။ သဘောတရားတို့သည် မမြဲကုန်၊ ဖောက်ပြန်တတ် ကုန်၏၊ တစ်မျိုးတစ်ဖုံ ဖြစ်တတ်ကုန်၏။

ရဟန်းတို့ ဤသို့ ယုံကြည်သက်ဝင်သူကို သဒ္ဓါသို့ အစဉ်လျှောက်၍ မဖောက်ပြန်သည်၏ အဖြစ်ဖြင့် မြဲခြင်းသို့ သက်ဝင်သူ၊ သူတော်ကောင်းတို့ ဖြစ်ရာဘုံသို့ သက်ဝင်သူ၊ ပုထုဇဉ်တို့ ဖြစ်ရာဘုံကို လွန်မြောက်သူ၊ ငရဲ တိရစ္ဆာန်မျိုး ပြိတ္တာဘုံတို့၌ ဖြစ်ရမည့် ကံကို ပြုခြင်းငှါ မထိုက်သူ၊ သောတာပတ္တိဖိုလ်ကို မျက်မှောက် မပြုရဘဲ သေခြင်းငှါလည်း မထိုက်သူဟု ဆိုအပ်၏။

ရဟန်းတို့ ဤတရားတို့ကို ဤသို့ ပညာ၏ အတိုင်းအရှည်အားဖြင့် ကပ်ရောက် ရှုနိုင်သူကို ပညာသို့ အစဉ်လျှောက်၍ မဖောက်ပြန်သည်၏ အဖြစ်ဖြင့် မြဲခြင်းသို့ သက်ဝင်သူ၊ သူတော်ကောင်းတို့ ဖြစ်ရာဘုံသို့ သက်ဝင်သူ၊ ပုထုဇဉ်တို့ ဖြစ်ရာဘုံကို လွန်မြောက်သူ၊ ငရဲ တိရစ္ဆာန်မျိုး ပြိတ္တာဘုံတို့၌ ဖြစ်ရမည့်ကံကို ပြုခြင်းငှါ မထိုက်သူ၊ သောတာပတ္တိဖိုလ်ကို မျက်မှောက် မပြုရဘဲ သေခြင်းငှါလည်း မထိုက်သူဟု ဆိုအပ်၏။ ရဟန်းတို့ ဤတရားတို့ကို ဤသို့ သိသူ ဤသို့ မြင်သူကို အပါယ်သို့ကျခြင်း သဘောမရှိသော ကိန်းသေမြဲသော အထက်မဂ်သုံးပါးလျှင် လားရာရှိသော သောတာပန်ဟု ဆိုအပ်၏ဟု (မိန့်တော်မူ၏)။

**ဒုတိယသုတ်။**

------

### ၃ - ဝိညာဏသုတ်

၃၀၄။ သာဝတ္ထိနိဒါန်း။ ရဟန်းတို့ စက္ခုဝိညာဏ်သည် မမြဲ၊ ဖောက်ပြန်တတ်၏၊ တစ်မျိုးတစ်ဖုံ ဖြစ်တတ်၏။ သောတ ဝိညာဏ်သည်။ ဃာနဝိညာဏ်သည်။ ဇိဝှါဝိညာဏ်သည်။ ကာယဝိညာဏ်သည်။ မနောဝိညာဏ်သည် မမြဲ၊ ဗဖာက်ပြန် တတ်၏၊ တစ်မျိုးတစ်ဖုံ ဖြစ်တတ်၏။

ရဟန်းတို့။ပ။ အထက်မဂ် သုံးပါးလျှင် လားရာရှိသော သောတာပန်ဟု ဆိုအပ်၏ဟု (မိန့်တော်မူ၏)။

**တတိယသုတ်။**

------

# ခန္ဓဝဂ္ဂသံယုတ်ပါဠိတော်

## === ၄ - သြက္ကန္တသံယုတ် ===

### ၄ - သမ္ဖဿသုတ်

၃၀၅။ သာဝတ္ထိနိဒါန်း။ ရဟန်းတို့ မျက်စိအတွေ့သည် မမြဲ၊ ဖောက်ပြန်တတ်၏၊ တစ်မျိုးတစ်ဖုံ ဖြစ်တတ်၏။ နား အတွေ့သည်။ နှာခေါင်းအတွေ့သည်။ လျှာအတွေ့သည်။ကိုယ်အတွေ့သည်။ စိတ်အတွေ့သည် မမြဲ၊ ဖောက်ပြန်တတ်၏၊ တစ်မျိုးတစ်ဖုံ ဖြစ်တတ်၏။ ရဟန်းတို့ ဤတရားတို့ကို ဤသို့ ယုံကြည် သက်ဝင်သူကို သဒ္ဓါသို့ အစဉ်လျှောက်၍ ။ပ။ အထက်မဂ်သုံးပါးလျှင် လားရာရှိသော သောတာပန်ဟု ဆိုအပ်၏ဟု (မိန့်တော်မူ၏)။

**စတုတ္ထသုတ်။**

------

### ၅ - သမ္ဖဿဇာသုတ်

၃၀၆။ သာဝတ္ထိနိဒါန်း။ ရဟန်းတို့ မျက်စိအတွေ့ကြောင့် ဖြစ်သော ဝေဒနာသည် မမြဲ၊ ဖောက်ပြန်တတ်၏၊ တစ်မျိုး တစ်ဖုံ ဖြစ်တတ်၏။ နားအတွေ့ကြောင့် ဖြစ်သော ဝေဒနာသည်။ပ။ နှာခေါင်းအတွေ့ကြောင့် ဖြစ်သော ဝေဒနာသည်။ပ။ လျှာအတွေ့ကြောင့် ဖြစ်သော ဝေဒနာသည်။ပ။ ကိုယ်အတွေ့ကြောင့်ဖြစ်သော ဝေဒနာသည်။ပ။ စိတ်အတွေ့ကြောင့် ဖြစ်သော ဝေဒနာသည် မမြဲ၊ ဖောက်ပြန်တတ်၏၊ တစ်မျိုးတစ်ဖုံ ဖြစ်တတ်၏။ ရဟန်းတို့ ဤတရားတို့ကို ဤသို့ ယုံကြည် သက်ဝင်သူကို သဒ္ဓါသို့အစဉ်လျှောက်၍ ။ပ။ အထက်မဂ် သုံးပါးလျှင် လားရာရှိသော သောတာပန်ဟု ဆိုအပ်၏ဟု (မိန့်တော်မူ၏)။

**ပဥ္စမသုတ်။**

------

### ၆ - ရူပသညာသုတ်သုတ်

၃၀၇။ သာဝတ္ထိနိဒါန်း။ ရဟန်းတို့ အဆင်း၌ ဖြစ်သော မှတ်သားမှု 'သညာ' သည် မမြဲ၊ ဖောက်ပြန်တတ်၏၊ တစ်မျိုး တစ်ဖုံ ဖြစ်တတ်၏။ အသံ၌ ဖြစ်သော မှတ်သားမှု 'သညာ'သည်။ အနံ့၌ ဖြစ်သော မှတ်သားမှု 'သညာ' သည်။ အရသာ၌ ဖြစ်သော မှတ်သားမှု 'သညာ' သည်။ အတွေ့၌ ဖြစ်သော မှတ်သားမှု 'သညာ' သည်။ သဘောတရား၌ ဖြစ်သော မှတ်သားမှု 'သညာ' သည် မမြဲ၊ ဖောက်ပြန်တတ်၏၊ တစ်မျိုးတစ်ဖုံ ဖြစ်တတ်၏။ ရဟန်းတို့ ဤတရားတို့ကို ဤသို့ ယုံကြည် သက်ဝင်သူကို သဒ္ဓါသို့ အစဉ်လျှောက်၍ ။ပ။ အထက်မဂ် သုံးပါးလျှင် လားရာရှိသော သောတာပန်ဟု ဆိုအပ်၏ ဟု (မိန့်တော်မူ၏)။

**ဆဋ္ဌသုတ်။**

------

## === ၄ - ဩက္ကန္တသံယုတ် ===

### ၇ - ရူပသဉ္စေတနာသုတ်

၃၀၈။ သာဝတ္ထိနိဒါန်း။ ရဟန်းတို့ အဆင်း၌ စေ့ဆော်မှု ‘စေတနာ’ သည် မမြဲ၊ ဖောက်ပြန်တတ်၏၊ တစ်မျိုးတစ်ဖုံ ဖြစ်တတ်၏။ အသံ၌ စေ့ဆော်မှု ‘စေတနာ’ သည်။ အနံ့၌ စေ့ဆော်မှု ‘စေတနာ’သည်။ အရသာ၌ စေ့ဆော်မှု ‘စေတနာ’ သည်။ အတွေ့၌ စေ့ဆော်မှု ‘စေတနာ’ သည်။ သဘောတရား၌ စေ့ဆော်မှု ‘စေတနာ’ သည် မမြဲ၊ ဖောက်ပြန်တတ်၏၊ တစ်မျိုးတစ်ဖုံ ဖြစ်တတ်၏။ ရဟန်းတို့ ဤတရားတို့ကို ဤသို့ ယုံကြည်သက်ဝင်သူကို သဒ္ဓါသို့ အစဉ်လျှောက်၍ ။ပ။ အထက်မဂ်သုံးပါးလျှင် လားရာရှိသော သောတာပန်ဟု ဆိုအပ်၏ဟု (မိန့်တော်မူ၏)။

သတ္တမသုတ်။

------

### ၈ - ရူပတဏှာသုတ်

၃၀၉။ သာဝတ္ထိနိဒါန်း။ ရဟန်းတို့ အဆင်း၌ တပ်မက်မှု ‘တဏှာ’ သည် မမြဲ၊ ဖောက်ပြန်တတ်၏၊ တစ်မျိုးတစ်ဖုံ ဖြစ်တတ်၏။ အသံ၌ တပ်မက်မှု ‘တဏှာ’ သည်။ အနံ့၌ တပ်မက်မှု ‘တဏှာ’ သည်။ အရသာ၌ တပ်မက်မှု ‘တဏှာ’ သည်။ အတွေ့၌ တပ်မက်မှု ‘တဏှာ’ သည်။ သဘောတရား၌ တပ်မက်မှု ‘တဏှာ’ သည် မမြဲ၊ ဖောက်ပြန်တတ်၏၊ တစ်မျိုးတစ်ဖုံ ဖြစ်တတ်၏။ ရဟန်းတို့ ဤတရားတို့ကို ဤသို့ ယုံကြည်သက်ဝင်သူကို သဒ္ဓါသို့ အစဉ်လျှောက်၍ ။ပ။ အထက်မဂ်သုံးပါးလျှင် လားရာရှိသော သောတာပန်ဟု ဆိုအပ်၏ဟု (မိန့်တော်မူ၏)။

အဋ္ဌမသုတ်။

------

### ၉ - ပထဝီဓာတုသုတ်

၃၁၀။ သာဝတ္ထိနိဒါန်း။ ရဟန်းတို့ မြေဓာတ်သည် မမြဲ၊ ဖောက်ပြန်တတ်၏၊ တစ်မျိုးတစ်ဖုံ ဖြစ်တတ်၏။ ရေဓာတ် သည်။ မီးဓာတ်သည်။ လေဓာတ်သည်။ ကောင်းကင်ဓာတ်သည်။ ဝိညာဏ်ဓာတ် သည် မမြဲ၊ ဖောက်ပြန်တတ်၏၊ တစ်မျိုး တစ်ဖုံ ဖြစ်တတ်၏။ ရဟန်းတို့ ဤတရားတို့ကို ဤသို့ ယုံကြည်သက်ဝင် သူကို သဒ္ဓါသို့ အစဉ်လျှောက်၍ ။ပ။ အထက်မဂ် သုံးပါးလျှင် လားရာရှိသော သောတာပန်ဟု ဆိုအပ်၏ ဟု (မိန့်တော်မူ၏)။

နဝမသုတ်။

------

# ခန္ဓဝဂ္ဂသံယုတ်ပါဠိတော်

## === ၄ - ဩက္ကန္တသံယုတ် ===

### ၁၀ - ခန္ဓသုတ်

၃၁၁။ သာဝတ္ထိနိဒါန်း။ ရဟန်းတို့ ရုပ်သည် မမြဲ၊ ဖောက်ပြန်တတ်၏၊ တစ်မျိုးတစ်ဖုံ ဖြစ်တတ်၏။ ဝေဒနာသည် မမြဲ၊ ဖောက်ပြန်တတ်၏၊ တစ်မျိုးတစ်ဖုံ ဖြစ်တတ်၏။ သညာသည်။ သင်္ခါရတို့သည် မမြဲကုန်၊ ဖောက်ပြန်တတ်ကုန်၏၊ တစ်မျိုး တစ်ဖုံ ဖြစ်တတ်ကုန်၏။ ဝိညာဏ်သည် မမြဲ၊ ဖောက်ပြန်တတ်၏၊ တစ်မျိုးတစ်ဖုံ ဖြစ်တတ်၏။ ရဟန်းတို့ ဤတရားတို့ကို ဤသို့ ယုံကြည်သက်ဝင်သူကို သဒ္ဓါသို့ အစဉ်လျှောက်၍ မဖောက်ပြန်သည်၏ အဖြစ်ဖြင့် မြဲခြင်းသို့ သက်ဝင်သူ၊ သူတော်ကောင်းတို့ ဖြစ်ရာဘုံသို့ သက်ဝင်သူ၊ ပုထုဇဉ်တို့ ဖြစ်ရာဘုံကို လွန်မြောက်သူ၊ ငရဲ တိရစ္ဆာန်မျိုး ပြိတ္တာဘုံတို့၌ ဖြစ်ရမည့် ကံကို ပြုခြင်းငှါ မထိုက်သူ၊ သောတာပတ္တိဖိုလ်ကို မျက်မှောက် မပြုရဘဲ သေခြင်းငှါလည်း မထိုက်သူဟု ဆိုအပ်၏။

ရဟန်းတို့ ဤတရားတို့ကို ဤသို့ ပညာ၏ အတိုင်းအရှည်အားဖြင့် ကပ်ရောက် ရှုနိုင်သူကို ပညာသို့ အစဉ်လျှောက်၍ မဖောက်ပြန်သည်၏ အဖြစ်ဖြင့် မြဲခြင်းသို့ သက်ဝင်သူ၊ သူတော်ကောင်းတို့ ဖြစ်ရာဘုံသို့ သက်ဝင်သူ၊ ပုထုဇဉ်တို့ ဖြစ်ရာဘုံကို လွန်မြောက်သူ၊ ငရဲ တိရစ္ဆာန်မျိုး ပြိတ္တာဘုံတို့၌ ဖြစ်ရမည့်ကံကို ပြုခြင်းငှါ မထိုက်သူ၊ သောတာပတ္တိဖိုလ်ကို မျက်မှောက် မပြုရဘဲ သေခြင်းငှါလည်း မထိုက်သူဟု ဆိုအပ်၏။ ရဟန်းတို့ ဤတရားတို့ကို ဤသို့ သိသူ ဤသို့ မြင်သူကို အပါယ်သို့ ကျခြင်း သဘော မရှိသော ကိန်းသေမြဲသော အထက်မဂ်သုံးပါးလျှင် လားရာရှိသော သောတာပန်ဟု ဆိုအပ်၏ဟု (မိန့်တော်မူ၏)။

**ဒသမသုတ်။**

**ဩက္ကန္တသံယုတ် ပြီး၏။**

------

# ခန္ဓဝဂ္ဂသံယုတ်ပါဠိတော်

## === ၅ - ဥပ္ပါဒသံယုတ် ===

### ၁ - စက္ခုသုတ်

၃၁၂။ သာဝတ္ထိနိဒါန်း။ ရဟန်းတို့ မျက်စိ၏ စ၍ ဖြစ်မှု၊ တည်တံ့မှု၊ အသစ်ဖြစ်ပေါ်မှု၊ ထင်ရှားဖြစ်ပေါ်မှုသည် ဆင်းရဲ၏ စ၍ ဖြစ်မှု၊ ရောဂါတို့၏ တည်တံ့မှု၊ အိုခြင်း သေခြင်း၏ ထင်ရှားဖြစ်ပေါ်မှု မည်၏။ နား၏ စ၍ ဖြစ်မှု၊ တည်တံ့မှု ။ပ။ နှာခေါင်း၏ စ၍ ဖြစ်မှု၊ တည်တံ့မှု။ပ။ လျှာ၏ စ၍ ဖြစ်မှု၊ တည်တံ့မှု။ပ။ကိုယ်၏ စ၍ ဖြစ်မှု၊ တည်တံ့မှု။ပ။ စိတ်၏ စ၍ ဖြစ်မှု၊ တည်တံ့မှု၊ အသစ်ဖြစ်ပေါ်မှု၊ ထင်ရှားဖြစ်ပေါ်မှုသည် ဆင်းရဲ၏ စ၍ ဖြစ်မှု၊ ရောဂါတို့၏ တည်တံ့မှု၊ အိုခြင်း သေခြင်း၏ ထင်ရှားဖြစ်ပေါ်မှု မည်၏။

ရဟန်းတို့ မျက်စိ၏ ချုပ်မှု ငြိမ်းမှု ကွယ်ပျောက်မှုသည် ဆင်းရဲ၏ ချုပ်မှု၊ ရောဂါတို့၏ ငြိမ်းမှု၊ အိုခြင်း သေခြင်း၏ ကွယ်ပျောက်မှု မည်၏။ နား၏ ချုပ်မှု။ပ။ နှာခေါင်း၏ ချုပ်မှု။ပ။ လျှာ၏ ချုပ်မှု။ပ။ကိုယ်၏ ချုပ်မှု။ပ။ စိတ်၏ ချုပ်မှု ငြိမ်းမှု ကွယ်ပျောက်မှုသည် ဆင်းရဲ၏ ချုပ်မှု၊ ရောဂါတို့၏ ငြိမ်းမှု၊ အိုခြင်း သေခြင်း၏ ကွယ်ပျောက်မှု မည်၏ဟု (ဟောတော်မူ၏)။

ပဌမသုတ်။

------

# ခန္ဓဝဂ္ဂသံယုတ်ပါဠိတော်

## === ၅ - ဥပ္ပါဒသံယုတ် ===

### ၂ - ရူပသုတ်

၃၁၃။ သာဝတ္ထိနိဒါန်း။ ရဟန်းတို့ အဆင်းတို့၏ စ၍ ဖြစ်မှု၊ တည်တံ့မှု၊ အသစ်ဖြစ်ပေါ်မှု၊ ထင်ရှားဖြစ်ပေါ်မှုသည် ဆင်းရဲ၏ စ၍ ဖြစ်မှု၊ ရောဂါတို့၏ တည်တံ့မှု၊ အိုခြင်း သေခြင်း၏ ထင်ရှားဖြစ်ပေါ်မှု မည်၏။ အသံတို့၏။ အနံ့တို့၏။ အရသာတို့၏။ အတွေ့တို့၏။ သဘောတရားတို့၏ စ၍ ဖြစ်မှု၊ တည်တံ့မှု၊ အသစ်ဖြစ်ပေါ်မှု၊ ထင်ရှားဖြစ်ပေါ်မှုသည် ဆင်းရဲ၏ စ၍ ဖြစ်မှု၊ ရောဂါတို့၏ တည်တံ့မှု၊ အိုခြင်း သေခြင်း၏ ထင်ရှားဖြစ်ပေါ်မှု မည်၏။

ရဟန်းတို့ အဆင်းတို့၏ ချုပ်မှု ငြိမ်းမှု ကွယ်ပျောက်မှုသည် ဆင်းရဲ၏ ချုပ်မှု၊ ရောဂါတို့၏ ငြိမ်းမှု၊ အိုခြင်း သေခြင်း၏ ကွယ်ပျောက်မှု မည်၏။ အသံတို့၏။ အနံ့တို့၏။ အရသာတို့၏။ အတွေ့တို့၏။ သဘောတရားတို့၏ ချုပ်မှု ငြိမ်းမှု ကွယ်ပျောက်မှုသည် ဆင်းရဲ၏ ချုပ်မှု၊ ရောဂါတို့၏ ငြိမ်းမှု၊ အိုခြင်းသေခြင်း၏ ကွယ်ပျောက်မှု မည်၏ ဟု (ဟောတော် မူ၏)။

ဒုတိယသုတ်။

------

# ခန္ဓဝဂ္ဂသံယုတ်ပါဠိတော်

## === ၅ - ဥပ္ပါဒသံယုတ် ===

### ၃ - ဝိညာဏသုတ်

၃၁၄။ သာဝတ္ထိနိဒါန်း။ ရဟန်းတို့ စက္ခုဝိညာဏ်၏ စ၍ ဖြစ်မှု တည်တံ့မှုသည်။ပ။ အိုခြင်း သေခြင်း၏ ထင်ရှား ဖြစ်ပေါ်မှု မည်၏။ပ။ မနောဝိညာဏ်၏ စ၍ ဖြစ်မှု တည်တံ့မှုသည်။ပ။ အိုခြင်း သေခြင်း၏ ထင်ရှားဖြစ်ပေါ်မှု မည်၏။

ရဟန်းတို့ စက္ခုဝိညာဏ်၏ ချုပ်မှုသည်။ပ။ အိုခြင်း သေခြင်း၏ ကွယ်ပျောက်မှု မည်၏။ပ။ မနောဝိညာဏ်၏ ချုပ်မှု သည် ။ပ။ အိုခြင်း သေခြင်း၏ ကွယ်ပျောက်မှု မည်၏ဟု (ဟောတော်မူ၏)။

**တတိယသုတ်။**

------

### ၄ - သမ္ဖဿသုတ်

၃၁၅။ သာဝတ္ထိနိဒါန်း။ ရဟန်းတို့ မျက်စိအတွေ့၏ စ၍ ဖြစ်မှု တည်တံ့မှုသည်။ပ။ အိုခြင်း သေခြင်း၏ ထင်ရှားဖြစ် ပေါ်မှု မည်၏။ပ။ စိတ်အတွေ့၏ စ၍ ဖြစ်မှု တည်တံ့မှုသည်။ပ။ အိုခြင်း သေခြင်း၏ ထင်ရှားဖြစ်ပေါ်မှုမည်၏။

ရဟန်းတို့ မျက်စိအတွေ့၏ ချုပ်မှုသည်။ပ။ အိုခြင်း သေခြင်း၏ ကွယ်ပျောက်မှု မည်၏။ပ။ စိတ်အတွေ့၏ ချုပ်မှု သည် ။ပ။ အိုခြင်း သေခြင်း၏ ကွယ်ပျောက်မှု မည်၏ဟု (ဟောတော်မူ၏)။

**စတုတ္ထသုတ်။**

------

### ၅ - သမ္ဖဿဇာသုတ်

၃၁၆။ သာဝတ္ထိနိဒါန်း။ ရဟန်းတို့ မျက်စိ အတွေ့ကြောင့် ဖြစ်သော ဝေဒနာ၏ စ၍ ဖြစ်မှု တည်တံ့မှုသည်။ပ။ အိုခြင်း သေခြင်း၏ ထင်ရှားဖြစ်ပေါ်မှု မည်၏။ပ။ စိတ် အတွေ့ကြောင့် ဖြစ်သော ဝေဒနာ၏ စ၍ ဖြစ်မှု တည်တံ့မှုသည်။ပ။ အိုခြင်း သေခြင်း၏ ထင်ရှားဖြစ်ပေါ်မှု မည်၏။

ရဟန်းတို့ မျက်စိ အတွေ့ကြောင့် ဖြစ်သော ဝေဒနာ၏ ချုပ်မှု ငြိမ်းမှုသည်။ပ။ အိုခြင်း သေခြင်း၏ ကွယ်ပျောက်မှု မည်၏။ပ။ စိတ် အတွေ့ကြောင့် ဖြစ်သော ဝေဒနာ၏ ချုပ်မှု ငြိမ်းမှု ကွယ်ပျောက်မှုသည် ဆင်းရဲ၏ ချုပ်မှု၊ ရောဂါတို့၏ ငြိမ်းမှု၊ အိုခြင်း သေခြင်း၏ ကွယ်ပျောက်မှု မည်၏ဟု (ဟောတော်မူ၏)။

**ပဉ္စမသုတ်။**

------

# ခန္ဓဝဂ္ဂသံယုတ်ပါဠိတော်

## === ၅ - ဥပ္ပါဒသံယုတ် ===

### ၆ - သညာသုတ်

၃၁၇။ သာဝတ္ထိနိဒါန်း။ ရဟန်းတို့ အဆင်း၌ မှတ်သားမှု 'သညာ' ၏ စ၍ ဖြစ်မှု တည်တံ့မှုသည်။ပ။ အိုခြင်း သေခြင်း ၏ ထင်ရှားဖြစ်ပေါ်မှု မည်၏။ပ။ သဘောတရား၌ မှတ်သားမှု 'သညာ' ၏ စ၍ ဖြစ်မှု၊ တည်တံ့မှု၊ အသစ်ဖြစ်ပေါ်မှု၊ ထင်ရှားဖြစ်ပေါ်မှုသည် ဆင်းရဲ၏ စ၍ ဖြစ်မှု၊ ရောဂါတို့၏ တည်တံ့မှု၊ အိုခြင်း သေခြင်း၏ ထင်ရှားဖြစ်ပေါ်မှု မည်၏။

ရဟန်းတို့ အဆင်း၌ မှတ်သားမှု 'သညာ' ၏ ချုပ်မှုသည်။ပ။ အိုခြင်း သေခြင်း၏ ကွယ်ပျောက်မှု မည်၏။ပ။ သဘောတရားတို့၌ မှတ်သားမှု 'သညာ' ၏ ချုပ်မှု ငြိမ်းမှု ကွယ်ပျောက်မှုသည် ဆင်းရဲ၏ ချုပ်မှု၊ ရောဂါတို့၏ ငြိမ်းမှု၊ အိုခြင်း သေခြင်း၏ ကွယ်ပျောက်မှု မည်၏ဟု (ဟောတော်မူ၏)။

ဆဋ္ဌသုတ်။

------

# ခန္ဓဝဂ္ဂသံယုတ်ပါဠိတော်

## === ၅ - ဥပ္ပါဒသံယုတ် ===

### ၇ - သဉ္စေတနာသုတ်

၃၁၈။ သာဝတ္ထိနိဒါန်း။ ရဟန်းတို့ အဆင်း၌ စေ့ဆော်မှု 'စေတနာ' ၏ စ၍ ဖြစ်မှု တည်တံ့မှုသည်။ပ။ အိုခြင်း သေခြင်း၏ ထင်ရှားဖြစ်ပေါ်မှု မည်၏။ပ။ သဘောတရားတို့၌ စေ့ဆော်မှု 'စေတနာ' ၏ စ၍ ဖြစ်မှု၊ တည်တံ့မှု၊ အသစ် ဖြစ်ပေါ်မှု၊ ထင်ရှားဖြစ်ပေါ်မှုသည် ဆင်းရဲ၏ စ၍ ဖြစ်မှု၊ ရောဂါတို့၏ တည်တံ့မှု၊ အိုခြင်း သေခြင်း၏ ထင်ရှားဖြစ်ပေါ်မှု မည်၏။

ရဟန်းတို့ အဆင်း၌ စေ့ဆော်မှု 'စေတနာ' ၏ ချုပ်မှု။ပ။ အိုခြင်း သေခြင်း၏ ကွယ်ပျောက်မှု မည်၏။ပ။ သဘော တရားတို့၌ စေ့ဆော်မှု 'စေတနာ' ၏ ချုပ်မှု ငြိမ်းမှု ကွယ်ပျောက်မှုသည် ဆင်းရဲ၏ ချုပ်မှု၊ ရောဂါတို့၏ ငြိမ်းမှု၊ အိုခြင်း သေခြင်း၏ ကွယ်ပျောက်မှု မည်၏ဟု (ဟောတော်မူ၏)။

သတ္တမသုတ်။

------

# ခန္ဓဝဂ္ဂသံယုတ်ပါဠိတော်

## === ၅ - ဥပ္ပါဒသံယုတ် ===

### ၈ - တဏှာသုတ်

၃၁၉။ သာဝတ္ထိနိဒါန်း။ ရဟန်းတို့ အဆင်း၌ တပ်မက်မှု'တဏှာ' ၏ စ၍ ဖြစ်မှု တည်တံ့မှုသည်။ပ။ အိုခြင်း သေခြင်း ၏ ထင်ရှားဖြစ်ပေါ်မှု မည်၏။ပ။ သဘောတရား၌ တပ်မက်မှု 'တဏှာ' ၏ စ၍ ဖြစ်မှု၊ တည်တံ့မှု၊ အသစ်ဖြစ်ပေါ်မှု၊ ထင်ရှားဖြစ်ပေါ်မှုသည် ဆင်းရဲ၏ စ၍ ဖြစ်မှု၊ ရောဂါတို့၏ တည်တံ့မှု၊ အိုခြင်း သေခြင်း၏ ထင်ရှားဖြစ်ပေါ်မှု မည်၏။

ရဟန်းတို့ အဆင်း၌ တပ်မက်မှု 'တဏှာ' ၏ ချုပ်မှုသည်။ပ။ အိုခြင်း သေခြင်း၏ ကွယ်ပျောက်မှု မည်၏။ပ။ သဘောတရားတို့၌ တပ်မက်မှု 'တဏှာ' ၏ ချုပ်မှု ငြိမ်းမှု ကွယ်ပျောက်မှုသည် ဆင်းရဲ၏ ချုပ်မှု၊ ရောဂါတို့၏ ငြိမ်းမှု၊ အိုခြင်း သေခြင်း၏ ကွယ်ပျောက်မှု မည်၏ဟု (ဟောတော်မူ၏)။

**အဋ္ဌမသုတ်။**

------

# ခန္ဓဝဂ္ဂသံယုတ်ပါဠိတော်

## === ၅ - ဥပ္ပါဒသံယုတ် ===

### ၉ - ဓာတုသုတ်

၃၂၀။ သာဝတ္ထိနိဒါန်း။ ရဟန်းတို့ မြေဓာတ်၏ စ၍ ဖြစ်မှု၊ တည်တံ့မှု၊ အသစ်ဖြစ်ပေါ်မှု၊ ထင်ရှားဖြစ်ပေါ်မှုသည်။ပ။ အိုခြင်း သေခြင်း၏ ထင်ရှားဖြစ်ပေါ်မှု မည်၏။ ရေဓာတ်။ မီးဓာတ်။ လေဓာတ်။ ကောင်းကင်ဓာတ်။ ဝိညာဏ်ဓာတ်၏ စ၍ ဖြစ်မှု၊ တည်တံ့မှု၊ အသစ်ဖြစ်ပေါ်မှု၊ ထင်ရှားဖြစ်ပေါ်မှုသည် ဆင်းရဲ၏ စ၍ ဖြစ်မှု၊ ရောဂါတို့၏ တည်တံ့မှု၊ အိုခြင်း သေခြင်း၏ ထင်ရှားဖြစ်ပေါ်မှု မည်၏။

ရဟန်းတို့ ဤမြေဓာတ်၏ ချုပ်မှုသည်။ပ။ အိုခြင်း သေခြင်း၏ ကွယ်ပျောက်မှု မည်၏။ ရေဓာတ်။ မီးဓာတ်။ လေဓာတ်။ ကောင်းကင်ဓာတ်။ ဝိညာဏ်ဓာတ်၏ ချုပ်မှု ငြိမ်းမှု ကွယ်ပျောက်မှုသည် ဆင်းရဲ၏ ချုပ်မှု၊ ရောဂါတို့၏ ငြိမ်းမှု၊ အိုခြင်း သေခြင်း၏ ကွယ်ပျောက်မှု မည်၏ဟု (မိန့်တော်မူ၏)။

**နဝမသုတ်။**

------

# ခန္ဓဝဂ္ဂသံယုတ်ပါဠိတော်

## === ၅ - ဥပ္ပါဒသံယုတ် ===

### ၁၀ - ခန္ဓသုတ်

၃၂၁။ သာဝတ္ထိနိဒါန်း။ ရဟန်းတို့ ရုပ်၏ စ၍ ဖြစ်မှု၊ တည်တံ့မှု၊ အသစ်ဖြစ်ပေါ်မှု၊ ထင်ရှား ဖြစ်ပေါ်မှုသည် ဆင်းရဲ၏ စ၍ ဖြစ်မှု၊ ရောဂါတို့၏ တည်တံ့မှု၊ အိုခြင်း သေခြင်း၏ ထင်ရှားဖြစ်ပေါ်မှု မည်၏။ ဝေဒနာ၏။ သညာ၏။ သင်္ခါရတို့၏။ ဝိညာဏ်၏ စ၍ ဖြစ်မှု၊ တည်တံ့မှု၊ အသစ်ဖြစ်ပေါ်မှု၊ ထင်ရှား ဖြစ်ပေါ်မှုသည် ဆင်းရဲ၏ စ၍ ဖြစ်မှု၊ ရောဂါတို့၏ တည်တံ့မှု၊ အိုခြင်း သေခြင်း၏ ထင်ရှား ဖြစ်ပေါ်မှု မည်၏။

ရဟန်းတို့ ရုပ်၏ ချုပ်မှု ငြိမ်းမှု ကွယ်ပျောက်မှုသည် ဆင်းရဲ၏ ချုပ်မှု၊ ရောဂါတို့၏ ငြိမ်းမှု၊ အိုခြင်း သေခြင်း၏ ကွယ်ပျောက်မှု မည်၏။ ဝေဒနာ၏။ သညာ၏။ သင်္ခါရတို့၏။ ဝိညာဏ်၏ ချုပ်မှု ငြိမ်းမှု ကွယ်ပျောက်မှုသည် ဆင်းရဲ၏ ချုပ်မှု၊ ရောဂါတို့၏ ငြိမ်းမှု၊ အိုခြင်း သေခြင်း၏ ကွယ်ပျောက်မှု မည်၏ဟု (မိန့်တော်မူ၏)။

**ဒသမသုတ်။**

**ဥပ္ပါဒသံယုတ် ပြီး၏။**

------

# ခန္ဓဝဂ္ဂသံယုတ်ပါဠိတော်

## === ၆ - ကိလေသသံယုတ် ===

### ၁ - စက္ခုသုတ်

၃၂၂။ သာဝတ္ထိနိဒါန်း။ ရဟန်းတို့ မျက်စိ၌ လိုချင်တပ်မက်မှု 'ဆန္ဒရာဂ' သည် စိတ်၏ ညစ်ညူးမှု မည်၏။ နား၌ လိုချင်တပ်မက်မှု 'ဆန္ဒရာဂ' သည် စိတ်၏ ညစ်ညူးမှု မည်၏။ နှာခေါင်း၌ လိုချင်တပ်မက်မှု 'ဆန္ဒရာဂ' သည် စိတ်၏ ညစ်ညူးမှု မည်၏။ လျှာ၌ လိုချင်တပ်မက်မှု 'ဆန္ဒရာဂ' သည် စိတ်၏ ညစ်ညူးမှု မည်၏။ကိုယ်၌ လိုချင်တပ်မက်မှု 'ဆန္ဒရာဂ' သည် စိတ်၏ ညစ်ညူးမှု မည်၏။ စိတ်၌ လိုချင်တပ်မက်မှု 'ဆန္ဒရာဂ' သည် စိတ်၏ ညစ်ညူးမှု မည်၏။

ရဟန်းတို့ အကြင်အခါ ရဟန်းသည် ဤခြောက်ဌာနတို့၌ စိတ်ညစ်ညူးမှုကို ပယ်အပ်ပြီး ဖြစ်၏၊ ထိုအခါ ထိုရဟန်း၏ စိတ်သည် ထွက်မြောက်ခြင်းသို့ ညွတ်၏၊ ထွက်မြောက်ခြင်း၌ အထုံရပြီးသော စိတ်သည် ထူးသောဉာဏ်ဖြင့် သိ၍ မျက်မှောက်ပြုအပ်သော တရားတို့၌ ပြုရန် သင့်လျော်သည် ဖြစ်၍ ထင်၏ဟု (ဟောတော်မူ၏)။

ပဌမသုတ်။

------

# ခန္ဓဝဂ္ဂသံယုတ်ပါဠိတော်

## === ၆ - ကိလေသသံယုတ် ===

### ၂ - ရူပသုတ်

၃၂၃။ သာဝတ္ထိနိဒါန်း။ ရဟန်းတို့ အဆင်းတို့၌ လိုချင်တပ်မက်မှု 'ဆန္ဒရာဂ' သည် စိတ်၏ ညစ်ညူးမှု မည်၏။ အသံတို့၌ ။ အနံ့တို့၌ ။ အရသာတို့၌ ။ အတွေ့တို့၌ ။ သဘောတရားတို့၌ လိုချင်တပ်မက်မှု 'ဆန္ဒရာဂ' သည် စိတ်၏ ညစ်ညူးမှု မည်၏။

ရဟန်းတို့ အကြင်အခါ ရဟန်းသည် ဤခြောက်ဌာနတို့၌ စိတ်ညစ်ညူးမှုကို ပယ်အပ်ပြီး ဖြစ်၏၊ ထိုအခါ ထိုရဟန်း၏ စိတ်သည် ထွက်မြောက်ခြင်းသို့ ညွတ်၏၊ ထွက်မြောက်ခြင်း၌ အထုံရပြီးသော စိတ်သည် ထူးသောဉာဏ်ဖြင့် သိ၍ မျက်မှောက် ပြုအပ်သော တရားတို့၌ ပြုရန် သင့်လျော်သည် ဖြစ်၍ ထင်၏ဟု (ဟောတော်မူ၏)။

ဒုတိယသုတ်။

------

# ခန္ဓဝဂ္ဂသံယုတ်ပါဠိတော်

## === ၆ - ကိလေသသံယုတ် ===

## ၃ - ဝိညာဏသုတ်

၃၂၄။ သာဝတ္ထိနိဒါန်း။ ရဟန်းတို့ စက္ခုဝိညာဏ်၌ လိုချင်တပ်မက်မှု 'ဆန္ဒရာဂ' သည် စိတ်၏ ညစ်ညူးမှု မည်၏။ သောတဝိညာဏ်၌ ။ ဃာနဝိညာဏ်၌ ။ ဇိဝှါဝိညာဏ်၌ ။ ကာယဝိညာဏ်၌ ။ မနောဝိညာဏ်၌ လိုချင် တပ်မက်မှု 'ဆန္ဒရာဂ' သည် စိတ်၏ ညစ်ညူးမှု မည်၏။

ရဟန်းတို့ အကြင်အခါ ရဟန်းသည် ဤခြောက်ဌာနတို့၌ စိတ်ညစ်ညူးမှုကို ပယ်အပ်ပြီး ဖြစ်၏၊ ထိုအခါ ထိုရဟန်း၏ စိတ်သည် ထွက်မြောက်ခြင်းသို့ ညွတ်၏၊ ထွက်မြောက်ခြင်း၌ အထုံရပြီးသော စိတ်သည် ထူးသောဉာဏ်ဖြင့် သိ၍ မျက်မှောက် ပြုအပ်သော တရားတို့၌ ပြုရန် သင့်လျော်သည် ဖြစ်၍ ထင်၏ဟု (ဟောတော်မူ၏)။

**တတိယသုတ်။**

------

## ၄ - သမ္ဖဿသုတ်

၃၂၅။ သာဝတ္ထိနိဒါန်း။ ရဟန်းတို့ မျက်စိအတွေ့၌ လိုချင်တပ်မက်မှု 'ဆန္ဒရာဂ' သည် စိတ်၏ ညစ်ညူးမှု မည်၏။ နားအတွေ့၌ ။ နှာခေါင်းအတွေ့၌ ။ လျှာအတွေ့၌ ။ကိုယ်အတွေ့၌ ။ စိတ်အတွေ့၌ လိုချင်တပ်မက်မှု 'ဆန္ဒရာဂ' သည် စိတ်၏ ညစ်ညူးမှု မည်၏။

ရဟန်းတို့ အကြင်အခါ ရဟန်းသည်။ပ။ ထူးသောဉာဏ်ဖြင့် သိ၍ မျက်မှောက်ပြုအပ်သော တရားတို့၌ ပြုရန် သင့်လျော်သည် ဖြစ်၍ ထင်၏ဟု (ဟောတော်မူ၏)။

**စတုတ္ထသုတ်။**

------

## ၅ - သမ္ဖဿဇာသုတ်

၃၂၆။ သာဝတ္ထိနိဒါန်း။ ရဟန်းတို့ မျက်စိအတွေ့ကြောင့် ဖြစ်သော ဝေဒနာ၌ လိုချင်တပ်မက်မှု 'ဆန္ဒရာဂ' သည် စိတ်၏ ညစ်ညူးမှု မည်၏။ နားအတွေ့ကြောင့် ဖြစ်သော ဝေဒနာ၌ ။ နှာခေါင်း အတွေ့ကြောင့် ဖြစ်သော ဝေဒနာ၌ ။ လျှာ အတွေ့ကြောင့် ဖြစ်သော ဝေဒနာ၌ ။ကိုယ်အတွေ့ကြောင့် ဖြစ်သော ဝေဒနာ၌ ။ စိတ် အတွေ့ကြောင့် ဖြစ်သော ဝေဒနာ ၌ လိုချင်တပ်မက်မှု 'ဆန္ဒရာဂ' သည် စိတ်၏ ညစ်ညူးမှုမည်၏။

ရဟန်းတို့ အကြင်အခါ ရဟန်းသည်။ပ။ ထူးသောဉာဏ်ဖြင့် သိ၍ မျက်မှောက်ပြုအပ်သော တရားတို့၌ ပြုရန် သင့်လျော်သည် ဖြစ်၍ ထင်၏ဟု (ဟောတော်မူ၏)။

**ပဉ္စမသုတ်။**

------

# ခန္ဓဝဂ္ဂသံယုတ်ပါဠိတော်

## === ၆ - ကိလေသသံယုတ် ===

### ၆ - သညာသုတ်

၃၂၇။ သာဝတ္ထိနိဒါန်း။ ရဟန်းတို့ အဆင်းမှတ်သားမှု 'သညာ' ၌ လိုချင်တပ်မက်မှု 'ဆန္ဒရာဂ' သည် စိတ်၏ ညစ်ညူးမှု မည်၏။ အသံမှတ်သားမှု 'သညာ' ၌ ။ အနံ့ မှတ်သားမှု 'သညာ' ၌ ။ အရသာ မှတ်သားမှု 'သညာ' ၌ ။ အတွေ့ မှတ်သားမှု 'သညာ' ၌ ။ သဘောတရား မှတ်သားမှု 'သညာ' ၌ လိုချင် တပ်မက်မှု 'ဆန္ဒရာဂ' သည် စိတ်၏ ညစ်ညူးမှု မည်၏။

ရဟန်းတို့ အကြင်အခါ ရဟန်းသည်။ပ။ ထူးသောဉာဏ်ဖြင့် သိ၍ မျက်မှောက်ပြုအပ်သော တရား တို့၌ ပြုရန် သင့်လျော်သည် ဖြစ်၍ ထင်၏ဟု (ဟောတော်မူ၏)။

**ဆဋ္ဌသုတ်။**

------

### ၇ - သဉ္စေတနာသုတ်

၃၂၈။ သာဝတ္ထိနိဒါန်း။ ရဟန်းတို့ အဆင်းကို စေ့ဆော်မှု 'စေတနာ' ၌ လိုချင်တပ်မက်မှု 'ဆန္ဒရာဂ' သည် စိတ်၏ ညစ်ညူးမှု မည်၏။ အသံကို စေ့ဆော်မှု 'စေတနာ' ၌ ။ အနံ့ကို စေ့ဆော်မှု 'စေတနာ' ၌။ အရသာကို စေ့ဆော်မှု 'စေတနာ' ၌ ။ အတွေ့ကို စေ့ဆော်မှု 'စေတနာ' ၌ ။ သဘောတရားကို စေ့ဆော်မှု 'စေတနာ' ၌ လိုချင်တပ်မက်မှု 'ဆန္ဒရာဂ' သည် စိတ်၏ ညစ်ညူးမှု မည်၏။

ရဟန်းတို့ အကြင်အခါ ရဟန်းသည်။ပ။ ထူးသောဉာဏ်ဖြင့် သိ၍ မျက်မှောက်ပြုအပ်သော တရား တို့၌ ပြုရန် သင့်လျော်သည် ဖြစ်၍ ထင်၏ဟု (ဟောတော်မူ၏)။

**သတ္တမသုတ်။**

------

### ၈ - တဏှာသုတ်

၃၂၉။ သာဝတ္ထိနိဒါန်း။ ရဟန်းတို့ အဆင်းကို တပ်မက်မှု၌ လိုချင်တပ်မက်မှု 'ဆန္ဒရာဂ' သည် စိတ်၏ ညစ်ညူးမှု မည်၏။ အသံကို တပ်မက်မှု၌ ။ အနံ့ကို တပ်မက်မှု၌ ။ အရသာကို တပ်မက်မှု၌ ။ အတွေ့ကို တပ်မက်မှု၌ ။ သဘော တရားကို တပ်မက်မှု၌ လိုချင် တပ်မက်မှု 'ဆန္ဒရာဂ' သည် စိတ်၏ ညစ်ညူးမှု မည်၏။

ရဟန်းတို့ အကြင်အခါ ရဟန်းသည်။ပ။ ထူးသောဉာဏ်ဖြင့် သိ၍ မျက်မှောက်ပြုအပ်သော တရားတို့၌ ပြုရန် သင့်လျော်သည် ဖြစ်၍ ထင်၏ဟု (ဟောတော်မူ၏)။

**အဋ္ဌမသုတ်။**

------

# ခန္ဓဝဂ္ဂသံယုတ်ပါဠိတော်

## === ၆ - ကိလေသသံယုတ် ===

### ၉ - ဓာတုသုတ်

၃၃၀။ သာဝတ္ထိနိဒါန်း။ ရဟန်းတို့ မြေဓာတ်၌ လိုချင်တပ်မက်မှု 'ဆန္ဒရာဂ' သည် စိတ်၏ ညစ်ညူးမှု မည်၏။ ရေဓာတ်၌ ။ မီးဓာတ်၌ ။ လေဓာတ်၌ ။ ကောင်းကင်ဓာတ်၌ ။ ဝိညာဏ်ဓာတ်၌ လိုချင်တပ်မက်မှု 'ဆန္ဒရာဂ' သည် စိတ်၏ ညစ်ညူးမှု မည်၏။

ရဟန်းတို့ အကြင်အခါ ရဟန်းသည် ဤခြောက်ဌာနတို့၌ စိတ်ညစ်ညူးမှုကို ပယ်အပ်ပြီး ဖြစ်၏၊ ထိုအခါ ထိုရဟန်း၏ စိတ်သည် ထွက်မြောက်ခြင်းသို့ ညွတ်၏၊ ထွက်မြောက်ခြင်း၌ အထုံရပြီးသော စိတ်သည် ထူးသောဉာဏ်ဖြင့် သိ၍ မျက်မှောက် ပြုအပ်သော တရားတို့၌ ပြုရန် သင့်လျော်သည် ဖြစ်၍ ထင်၏ ဟု (ဟောတော်မူ၏)။

နဝမသုတ်။

------

# ခန္ဓဝဂ္ဂသံယုတ်ပါဠိတော်

## === ၆ - ကိလေသသံယုတ် ===

### ၁၀ - ခန္ဓသုတ်

၃၃၁။ သာဝတ္ထိနိဒါန်း။ ရဟန်းတို့ ရုပ်၌ လိုချင်တပ်မက်မှု 'ဆန္ဒရာဂ' သည် စိတ်၏ ညစ်ညူးမှု မည်၏။ပ။ ဝိညာဏ်၌ လိုချင်တပ်မက်မှု 'ဆန္ဒရာဂ' သည် စိတ်၏ ညစ်ညူးမှု မည်၏။

ရဟန်းတို့ အကြင်အခါ ရဟန်းသည် ဤငါးဌာနတို့၌ စိတ်ညစ်ညူးမှုကို ပယ်အပ်ပြီး ဖြစ်၏၊ ထိုအခါ ထိုရဟန်း၏ စိတ်သည် ထွက်မြောက်ခြင်းသို့ ညွတ်၏၊ ထွက်မြောက်ခြင်း၌ အထုံရပြီးသော စိတ်သည် ထူးသောဉာဏ်ဖြင့် သိ၍ မျက်မှောက် ပြုအပ်သော တရားတို့၌ ပြုရန် သင့်လျော်သည် ဖြစ်၍ ထင်၏ဟု (ဟောတော်မူ၏)။

ဒသမသုတ်။

ကိလေသသံယုတ် ပြီး၏။

------

# ခန္ဓဝဂ္ဂသံယုတ်ပါဠိတော်

## === ၇ - သာရိပုတ္တသံယုတ် ===

### ၁ - ဝိဝေကဇသုတ်

၃၃၂။ အခါတစ်ပါး၌ အသျှင်သာရိပုတြာသည် သာဝတ္ထိပြည် အနာထပိဏ်သူဌေး၏ အရံဖြစ်သော ဇေတဝန်ကျောင်း ၌ (သီတင်းသုံး) နေတော်မူ၏၊ ထိုအခါ အသျှင် သာရိပုတြာသည် နံနက်အချိန် သင်းပိုင်ကို ပြင်ဝတ်၍ သပိတ် သင်္ကန်းကို ယူဆောင်ပြီးလျှင် သာဝတ္ထိပြည်သို့ ဆွမ်းခံ အလို့ငှါ လှည့်လည် တော်မူပြီးလျှင် ဆွမ်းစားပြီးနောက် ဆွမ်းခံရွာမှ ဖဲခဲ့၍ နေ့သန့်စင်ရန် အန္ဓဝန်တောသို့ ချဉ်းကပ်၍ တစ်ခုသော သစ်ပင် ရင်း၌ ထိုင်နေတော်မူ၏။

ထို့နောက် ညချမ်းအခါ တစ်ပါးတည်း ကိန်းအောင်းရာမှ ထပြီးလျှင် အနာထပိဏ်သူဌေး၏ အရံ ဖြစ်သော ဇေတဝန် ကျောင်းသို့ ချဉ်းကပ်တော်မူလေ၏။ အသျှင်အာနန္ဒာသည် အသျှင်သာရိပုတြာ ကြွလာသည်ကို အဝေးမှပင် မြင်၍ အသျှင်သာရိပုတြာအား “ငါ့သျှင်သာရိပုတြာ သင်၏ ဣန္ဒြေတို့သည် အလွန်ကြည်လင်ကုန်၏၊ မျက်နှာအဆင်းသည် အလွန်စင်ကြယ်၏၊ အလွန်ဖြူစင် တောက်ပ၏၊ အသျှင်သည် ယနေ့ အဘယ်နေခြင်းဖြင့် နေခဲ့ပါသနည်း” ဟု လျှောက်၏။

ငါ့သျှင် ငါသည် ကာမတို့မှ ကင်းဆိတ်၍ သာလျှင် အကုသိုလ်တရားတို့မှ ကင်းဆိတ်၍ သာလျှင် ကြံစည်ခြင်း ‘ဝိတက် ’ နှင့် တကွ ဖြစ်သော သုံးသပ်ဆင်ခြင်ခြင်း ‘ဝိစာရ’ နှင့်တကွဖြစ်သော ‘နီဝရဏ’ ကင်းဆိတ်ခြင်းကြောင့် ဖြစ်သော နှစ်သိမ့်ခြင်း ‘ပီတိ’ ချမ်းသာခြင်း ‘သုခ’ ရှိသော ပဌမဈာန်သို့ ရောက်၍ နေ၏။ ငါ့သျှင် ထိုငါ့အား “ပဌမဈာန်ကို ငါ ဝင်စား၏” ဟူ၍ လည်းကောင်း၊ “ပဌမဈာန်ကို ငါဝင်စားခဲ့ပြီ” ဟူ၍ လည်းကောင်း၊ “ပဌမဈာန်မှ ငါ ထခဲ့ပြီ” ဟူ၍ လည်းကောင်း ဤသို့ စိတ်အကြံ မဖြစ်ဟု မိန့်တော်မူ၏။ ထိုသို့ စိတ်အကြံ မဖြစ်သောကြောင့် သာလျှင် အသျှင် သာရိပုတြာသည် ငါဟု စွဲယူမှု ‘ဒိဋ္ဌိ’၊ ငါ့ဥစ္စာဟု တပ်မက်မှု ‘တဏှာ’၊ ထောင်လွှားမှု ‘မာနာနုသယ’ တို့ကို အချိန်ကြာမြင့်စွာ ကပင် ကောင်းစွာ ပယ်နုတ်အပ်ခဲ့လေပြီ၊ ထို့ကြောင့် အသျှင်သာရိပုတြာအား “ပဌမဈာန်ကို ငါဝင်စားနေ၏” ဟူ၍ လည်းကောင်း၊ “ပဌမဈာန်ကို ငါ ဝင်စားခဲ့ပြီ” ဟူ၍ လည်းကောင်း၊ “ပဌမဈာန်မှ ငါထခဲ့ပြီ” ဟူ၍ လည်းကောင်း ဤသို့ စိတ်အကြံ မဖြစ်နိုင်တော့ချေဟု (မိန့်ဆို၏)။

**ပဌမသုတ်။**

------

# ခန္ဓဝဂ္ဂသံယုတ်ပါဠိတော်

## === ၇ - သာရိပုတ္တသံယုတ် ===

### ၂ - အဝိတက္ကသုတ်

၃၃၃။ သာဝတ္ထိနိဒါန်း။ အသျှင်အာနန္ဒာသည် အသျှင်သာရိပုတြာကို မြင်၍ ။ပ။ အသျှင်သာရိပုတြာအား ဤစကားကို လျှောက်၏- "ငါ့သျှင်သာရိပုတြာ သင်၏ ဣန္ဒြေတို့သည် အလွန်ကြည်လင်ကုန်၏၊ မျက်နှာအဆင်းသည် အလွန်စင်ကြယ် ၏၊ အလွန်ဖြူစင်တောက်ပ၏၊ အသျှင်သည် ယနေ့ အဘယ် နေခြင်းဖြင့် နေခဲ့ပါသနည်း" ဟု လျှောက်၏။

ငါ့သျှင် ငါသည် ဝိတက်ဝိစာရ ငြိမ်းခြင်းကြောင့် မိမိသန္တာန်၌ စိတ်ကို ကြည်လင်စေတတ်သော စိတ်တည် ကြည်မှု 'သမာဓိ' ကို ဖြစ်ပွါး စေတတ်သော၊ ကြံစည်ခြင်း 'ဝိတက်' မရှိသော၊ သုံးသပ် ဆင်ခြင်ခြင်း 'ဝိစာရ' မရှိသော၊ တည်ကြည် ခြင်း 'သမာဓိ' ကြောင့် ဖြစ်သော နှစ်သိမ့်ခြင်း 'ပီတိ' ချမ်းသာခြင်း 'သုခ' ရှိသော ဒုတိယစျာန်သို့ ရောက်၍ နေ၏။ ငါ့သျှင် ထိုငါ့အား "ဒုတိယစျာန်ကို ငါ ဝင်စားနေ၏" ဟူ၍ လည်းကောင်း၊ "ဒုတိယစျာန်ကို ငါ ဝင်စားခဲ့ပြီ" ဟူ၍ လည်းကောင်း၊ "ဒုတိယစျာန်မှ ငါ ထခဲ့၏" ဟူ၍ လည်းကောင်း ဤသို့ စိတ်အကြံ မဖြစ် ဟု မိန့်တော်မူ၏။ ထိုသို့ စိတ်အကြံ မဖြစ်သောကြောင့် သာလျှင် အသျှင် သာရိပုတြာသည် ငါဟု စွဲယူမှု 'ဒိဋ္ဌိ'၊ ငါ့ဥစ္စာဟု တပ်မက်မှု 'တဏှာ'၊ ထောင်လွှားမှု 'မာနာနုသယ' တို့ကို အချိန်ကြာမြင့်စွာကပင် ကောင်းစွာ ပယ်နုတ်အပ်ခဲ့ လေပြီ၊ ထို့ကြောင့် အသျှင် သာရိပုတြာအား "ဒုတိယ စျာန်ကို ငါဝင်စားနေ၏" ဟူ၍ လည်းကောင်း၊ "ဒုတိယစျာန်ကို ငါ ဝင်စားခဲ့ပြီ" ဟူ၍ လည်းကောင်း၊ "ဒုတိယစျာန်မှ ငါထခဲ့ပြီ" ဟူ၍ လည်းကောင်း ဤသို့ စိတ်အကြံ မဖြစ်နိုင်တော့ချေဟု (မိန့်ဆို၏)။

**ဒုတိယသုတ်။**

------

# ခန္ဓဝဂ္ဂသံယုတ်ပါဠိတော်

## === ၇ - သာရိပုတ္တသံယုတ် ===

### ၃ - ပီတိသုတ်

၃၃၄။ သာဝတ္ထိနိဒါန်း။ အသျှင်အာနန္ဒာသည် အသျှင်သာရိပုတြာကို မြင်၍ ။ပ။ ငါ့သျှင် သာရိပုတြာ သင်၏ ဣန္ဒြေတို့သည် အလွန်ကြည်လင်ကုန်၏၊ မျက်နှာအဆင်းသည် အလွန်စင်ကြယ်၏၊ အလွန်ဖြူစင်တောက်ပ၏၊ အသျှင် သည် ယနေ့ အဘယ်နေခြင်းဖြင့် နေခဲ့ပါသနည်းဟု လျှောက်၏။

ငါ့သျှင် ငါသည် နှစ်သိမ့်ခြင်း 'ပီတိ' ကိုလည်း မတပ်မက်ခြင်းကြောင့် သတိ,သမ္ပဇဉ်နှင့် ပြည့်စုံသည် ဖြစ်၍ လျစ်လျူရှု လျက် နေ၏၊ ချမ်းသာခြင်း 'သုခ'ကိုလည်းကိုယ်ဖြင့် ခံစားရ၏၊ အကြင် (တတိယစျာန်) ကြောင့် ထိုသူကို "လျစ်လျူရှုသူ၊ သတိရှိသူ၊ ချမ်းသာစွာ နေလေ့ရှိသူ" ဟု အရိယာပုဂ္ဂိုလ်တို့သည် ပြောကြားကုန်၏၊ ထိုတတိယစျာန်သို့ ရောက်၍ နေ၏။ ငါ့သျှင် ထိုငါ့အား "တတိယစျာန်ကို ငါဝင်စားနေ၏" ဟူ၍ လည်းကောင်း၊ "တတိယစျာန်ကို ငါ ဝင်စားခဲ့ပြီ" ဟူ၍ လည်းကောင်း၊ "တတိယစျာန်မှငါ ထခဲ့၏" ဟူ၍ လည်းကောင်း ဤသို့ စိတ်အကြံ မဖြစ်ဟု မိန့်တော်မူ၏။ ဤသို့ စိတ်အကြံ မဖြစ်သောကြောင့်သာလျှင် အသျှင်သာရိပုတြာသည် ငါဟု စွဲယူမှု 'ဒိဋ္ဌိ'၊ ငါ့ဥစ္စာဟု တပ်မက်မှု 'တဏှာ'၊ ထောင်လွှားမှု 'မာနာနုသယ' တို့ကို အချိန်ကြာမြင့်စွာကပင် ကောင်းစွာ ပယ်နုတ်အပ်ခဲ့လေပြီ၊ ထို့ကြောင့် အသျှင် သာရိပုတြာအား "တတိယစျာန်ကို ငါ ဝင်စားနေ၏" ဟူ၍ လည်းကောင်း၊ "တတိယစျာန်ကို ငါဝင်စားခဲ့ပြီ" ဟူ၍ လည်းကောင်း၊ "တတိယစျာန်မှ ငါ ထခဲ့ပြီ" ဟူ၍ လည်းကောင်း ဤသို့ စိတ်အကြံ မဖြစ်နိုင်တော့ချေဟု (မိန့်ဆို၏)။

**တတိယသုတ်။**

------

# ခန္ဓဝဂ္ဂသံယုတ်ပါဠိတော်

## === ၇ - သာရိပုတ္တသံယုတ် ===

### ၄ - ဥပေက္ခာသုတ်

၃၃၅။ သာဝတ္ထိနိဒါန်း။ အသျှင်အာနန္ဒာသည် အသျှင်သာရိပုတြာကို မြင်၍ ။ပ။ ငါ့သျှင်သာရိပုတြာ သင်၏ ဣန္ဒြေတို့ သည် အလွန်ကြည်လင်ကုန်၏၊ မျက်နှာအဆင်းသည် အလွန်စင်ကြယ်၏၊ အလွန်ဖြူစင် တောက်ပ၏၊ အသျှင်သည် ယနေ့ အဘယ်နေခြင်းဖြင့် နေခဲ့ပါသနည်းဟု လျှောက်၏။

ငါ့သျှင် ငါသည် ချမ်းသာဆင်းရဲကို ပယ်ခြင်းကြောင့် လည်းကောင်း၊ ဝမ်းမြောက်ခြင်း နှလုံးမသာခြင်းတို့၏ ရှေးဦးက ပင် ချုပ်နှင့်ခြင်းကြောင့် လည်းကောင်း၊ ဆင်းရဲချမ်းသာ မရှိသော 'ဥပေက္ခာ' ကြောင့်ဖြစ်သည့် သတိ၏ စင်ကြယ်ခြင်း ရှိသော စတုတ္ထစျာန်သို့ ရောက်၍ နေ၏။ ငါ့သျှင် ထိုငါ့အား "စတုတ္ထစျာန်ကို ငါ ဝင်စား၏" ဟူ၍ လည်းကောင်း၊ "စတုတ္ထစျာန်ကို ငါ ဝင်စားခဲ့ပြီ" ဟူ၍ လည်းကောင်း၊ "စတုတ္ထစျာန်မှငါ ထခဲ့၏ " ဟူ၍ လည်းကောင်း ဤသို့ စိတ်အကြံ မဖြစ်ဟု မိန့်တော်မူ၏။ ဤသို့ စိတ်အကြံ မဖြစ်သောကြောင့် သာလျှင် အသျှင်သာရိပုတြာသည် ငါဟု စွဲယူမှု 'ဒိဋ္ဌိ'၊ ငါ့ဥစ္စာ ဟု တပ်မက်မှု 'တဏှာ'၊ ထောင်လွှားမှု 'မာနာနုသယ' တို့ကို အချိန်ကြာမြင့်စွာကပင် ကောင်းစွာ ပယ်နုတ်အပ်ခဲ့လေပြီ၊ ထို့ကြောင့် အသျှင်သာရိပုတြာအား "စတုတ္ထစျာန်ကို ငါ ဝင်စားနေ၏" ဟူ၍ လည်းကောင်း၊ "စတုတ္ထစျာန်ကို ငါ ဝင်စားခဲ့ပြီ" ဟူ၍ လည်းကောင်း၊ "စတုတ္ထစျာန်မှ ငါ ထခဲ့ပြီ" ဟူ၍ လည်းကောင်း ဤသို့ စိတ်အကြံ မဖြစ်နိုင်တော့ချေဟု (မိန့်ဆို၏)။

**စတုတ္ထသုတ်။**

------

# ခန္ဓဝဂ္ဂသံယုတ်ပါဠိတော်

## === ၇ - သာရိပုတ္တသံယုတ် ===

### ၅ - အာကာသာနဉ္စာယတနသုတ်

၃၃၆။ သာဝတ္ထိနိဒါန်း။ အသျှင်အာနန္ဒာသည် အသျှင်သာရိပုတြာကို မြင်၍ ။ပ။ ငါ့သျှင် ငါသည် ရူပသညာ အားလုံး ကို လွန်မြောက်ခြင်းကြောင့် ပဋိဃသညာတို့၏ ချုပ်ခြင်းကြောင့် နာနတ္တသညာတို့ကို နှလုံး မသွင်းခြင်းကြောင့် "ကောင်းကင်သည် အဆုံးမရှိ" ဟု စီးဖြန်း၍ ရသော အာကာသာနဉ္စာယတနစျာန်ကို ပြည့်စုံစေ၍ နေ၏။ပ။ ထခဲ့၏ ဟူ၍ လည်းကောင်း ဤသို့ စိတ်အကြံ မဖြစ်နိုင်တော့ချေဟု (မိန့်ဆို၏)။

**ပဉ္စမသုတ်။**

------

# ခန္ဓဝဂ္ဂသံယုတ်ပါဠိတော်

## === ၇ - သာရိပုတ္တသံယုတ် ===

### ၆ - ဝိညာဏဥ္စာယတနသုတ်

၃၃၇။ သာဝတ္ထိနိဒါန်း။ အသျှင်အာနန္ဒာသည်။ပ။ ငါ့သျှင် ငါသည် အာကာသာနဉ္စာယတနစျာန်ကို အကြွင်းမဲ့ လွန်မြောက်၍ ဝိညာဏဥ္စာယတနစျာန်ကို ပြည့်စုံစေ၍ နေ၏။ပ။ ထခဲ့၏ဟူ၍ လည်းကောင်း ဤသို့ စိတ်အကြံ မဖြစ်နိုင် တော့ချေဟု (မိန့်ဆို၏)။

**ဆဋ္ဌသုတ်။**

------

### ၇ - အာကိဉ္စညာယတနသုတ်

၃၃၈။ သာဝတ္ထိနိဒါန်း။ ထိုအခါ အသျှင်သာရိပုတြာသည်။ပ။ ငါ့သျှင် ငါသည် ဝိညာဏဥ္စာယတနစျာန်ကို အကြွင်းမဲ့ လွန်မြောက်၍ "တစ်စုံတစ်ခုမျှ မရှိ" ဟု စီးဖြန်းသော အာကိဉ္စညာယတနစျာန်ကို ပြည့်စုံစေ၍ နေ၏။ပ။ ထခဲ့၏ဟူ၍ လည်းကောင်း ဤသို့ စိတ်အကြံ မဖြစ်နိုင်တော့ချေဟု (မိန့်ဆို၏)။

**သတ္တမသုတ်။**

------

# ခန္ဓဝဂ္ဂသံယုတ်ပါဠိတော်

## === ၇ - သာရိပုတ္တသံယုတ် ===

### ၈ - နေဝသညာ နာသညာယတနသုတ်

၃၃၉။ သာဝတ္ထိနိဒါန်း။ ထိုအခါ အသျှင်သာရိပုတြာသည်။ပ။ ငါ့သျှင် ငါသည် အာကိဉ္စညာယတနစျာန်ကို လွန်မြောက်လျက် နေဝသညာနာသညာယတနစျာန်နှင့် ပြည့်စုံစေ၍ နေ၏။ပ။ ထခဲ့၏ ဟူ၍ လည်းကောင်း ဤသို့ စိတ်အကြံ မဖြစ်နိုင်တော့ချေဟု (မိန့်ဆို၏)။

**အဋ္ဌမသုတ်။**

------

# ခန္ဓဝဂ္ဂသံယုတ်ပါဠိတော်

## === ၇ - သာရိပုတ္တသံယုတ် ===

### ၉ - နိရောဓသမာပတ္တိသုတ်

၃၄၀။ သာဝတ္ထိနိဒါန်း။ ထိုအခါ အသျှင်သာရိပုတြာသည်။ပ။ ငါ့သျှင် ငါသည် နေဝသညာ နာသညာယတနစျာန်ကို အကြွင်းမဲ့ လွန်မြောက်လျက် သညာဝေဒနာတို့၏ ချုပ်ရာ နိရောဓသမာပတ်ကို ပြည့်စုံစေ၍ နေ၏။ ငါ့သျှင် ထိုငါ့အား "ငါသည် သညာဝေဒနာတို့၏ ချုပ်ရာ (နိရောဓသမာပတ်) ကို ဝင်စား၏" ဟူ၍ လည်းကောင်း၊ "သညာဝေဒနာတို့၏ ချုပ်ရာ (နိရောဓသမာပတ်)ကို ဝင်စားခဲ့ပြီ" ဟူ၍ လည်းကောင်း၊ "သညာဝေဒနာတို့၏ ချုပ်ရာ (နိရောဓသမာပတ်) မှထခဲ့၏" ဟူ၍ လည်းကောင်း ဤသို့ စိတ်အကြံ မဖြစ်ဟု မိန့်တော်မူ၏။

ဤသို့ စိတ်အကြံ မဖြစ်သောကြောင့်သာလျှင် အသျှင်သာရိပုတြာသည် ငါဟု စွဲယူမှု 'ဒိဋ္ဌိ'၊ ငါ့ဥစ္စာဟု တပ်မက်မှု 'တဏှာ'၊ ထောင်လွှားမှု 'မာနာနုသယ' တို့ကို အချိန်ကြာမြင့်စွာကပင် ကောင်းစွာ ပယ်နုတ်အပ်ခဲ့လေပြီ၊ ထို့ကြောင့် အသျှင်သာရိပုတြာအား "ငါသည် သညာဝေဒနာတို့၏ ချုပ်ရာ (နိရောဓသမာပတ်)ကို ဝင်စားနေ၏" ဟူ၍ လည်း ကောင်း၊ "သညာဝေဒနာတို့၏ ချုပ်ရာ (နိရောဓ သမာပတ်)ကို ဝင်စားခဲ့ပြီ" ဟူ၍ လည်းကောင်း၊ "သညာဝေဒနာတို့၏ ချုပ်ရာ (နိရောဓသမာပတ်) မှ ထခဲ့ပြီ" ဟူ၍ လည်းကောင်း ဤသို့ စိတ်အကြံ မဖြစ်နိုင်တော့ချေ ဟု (မိန့်ဆို၏)။

နဝမသုတ်။

------

# ခန္ဓဝဂ္ဂသံယုတ်ပါဠိတော်

## === ၇ - သာရိပုတ္တသံယုတ် ===

### ၁၀ - သုစိမုခီသုတ်

၃၄၁။ အခါတစ်ပါး၌ အသျှင်သာရိပုတြာသည် ရာဇဂြိုဟ်ပြည် ရှဉ့်နက်တို့ကို အစာကျွေးရာ ဖြစ်သော ဝေဠုဝန် ကျောင်း၌ (သီတင်းသုံး) နေတော်မူ၏၊ ထိုအခါ အသျှင်သာရိပုတြာသည် နံနက် အချိန် သင်းပိုင်ကို ပြင်ဝတ်၍ သပိတ် သင်္ကန်းကို ယူဆောင်ပြီးလျှင် ရာဇဂြိုဟ်ပြည်သို့ ဆွမ်းအလို့ငှါ ဝင်လေ၏၊ ရာဇဂြိုဟ်ပြည်၌ ဆွမ်းခံ လှည့်လည်ပြီးသော် နံရံတစ်ခုကို မှီကာ ထိုဆွမ်းကို ဘုဉ်းပေး တော်မူ၏၊ ထိုအခါ သုစိမုခီပရိဗိုဇ်မသည် အသျှင်သာရိပုတြာထံသို့ ချဉ်းကပ်၍ အသျှင်သာရိပုတြာအား ဤစကားကို လျှောက်၏-

အသျှင်ရဟန်း အောက်သို့ ငုံ့၍ စားပါသလော၊ နှမ ငါသည် အောက်သို့ ငုံ့၍ မစားပါ။ အသျှင်ရဟန်း သို့ဖြစ်လျှင် အထက်သို့ မော့၍ စားပါသလော၊ နှမ ငါသည် အထက်သို့ မော့၍ မစားပါ။ အသျှင်ရဟန်း သို့ဖြစ်လျှင် အရပ် လေးမျက်နှာသို့ လှည့်၍ စားပါသလော၊ နှမ ငါသည် အရပ် လေးမျက်နှာသို့ လှည့်၍ မစားပါ။ အသျှင်ရဟန်း သို့ဖြစ်လျှင် အထောင့် အရပ်လေးမျက်နှာသို့ လှည့်၍ စားပါ့သလော၊ နှမ ငါသည် အထောင့် အရပ်လေးမျက်နှာသို့ လှည့်၍ မစားပါဟု မိန့်တော်မူ၏။

အသျှင်ရဟန်း "အောက်သို့ ငုံ့၍ စားပါသလော" ဟု ဤသို့ မေးလတ်သော် "နှမ ငါသည် အောက်သို့ငုံ့၍ မစားပါ" ဟု ဆို၏၊ အသျှင်ရဟန်း သို့ဖြစ်လျှင် "အထက်သို့ မော့၍ စားပါသလော" ဟု ဤသို့မေးသော် "နှမ ငါသည် အထက်သို့ မော့၍ မစားပါ" ဟု ဆို၏၊ အသျှင်ရဟန်း သို့ဖြစ်လျှင် "အရပ်လေးမျက်နှာသို့ လှည့်၍ စားပါသလော" ဟု ဤသို့ မေးသော် "နှမ ငါသည် အရပ်လေးမျက်နှာသို့ လှည့်၍ မစားပါ" ဟု ဆို၏၊ အသျှင်ရဟန်း သို့ဖြစ်လျှင် "အထောင့် အရပ် လေးမျက်နှာသို့ လှည့်၍ စားပါသလော" ဟု ဤသို့မေးသော် "နှမ ငါသည် အထောင့် အရပ်လေးမျက်နှာသို့ လှည့်၍ မစားပါ "ဟုဆို၏။ အသျှင်ရဟန်း သို့ဖြစ်လျှင် အဘယ်သို့ စားပါသနည်းဟု လျှောက်၏။

နှမ မြေကြန်အတတ် ဟူသော (မင်္ဂဖိုလ်မှ) ဖီလာအတတ်ဖြင့် မှားသော အသက်မွေးခြင်းဖြင့် အသက်မွေးကြသော သမဏဗြာဟ္မဏ အားလုံးတို့ကို အောက်သို့ ငုံ့၍ စားသူတို့ဟု ဆိုအပ်ကုန်၏။

နက္ခတ်အတတ် ဟူသော (မင်္ဂဖိုလ်မှ) ဖီလာအတတ်ဖြင့် မှားသော အသက်မွေးခြင်းဖြင့် အသက်မွေးကြသော သမဏ ဗြာဟ္မဏအားလုံးတို့ကို အထက်သို့ မော့၍ စားသူတို့ဟု ဆိုအပ်ကုန်၏။

တမန်မှု အစေအပါးအမှုဖြင့် သွားခြင်းကို အားထုတ်ခြင်းဖြင့် မှားသော အသက်မွေးခြင်းဖြင့် အသက်မွေးကြသော သမဏဗြာဟ္မဏ အားလုံးတို့ကို အရပ်လေးမျက်နှာသို့ လှည့်၍ စားသူတို့ဟု ဆိုအပ် ကုန်၏။ အင်္ဂဝိဇ္ဇာအတတ်ဟူသော (မင်္ဂဖိုလ်မှ) ဖီလာအတတ်ဖြင့် မှားသော အသက်မွေးခြင်းဖြင့် အသက်မွေးကြသော သမဏဗြာဟ္မဏအားလုံးတို့ကို အထောင့်အရပ် လေးမျက်နှာသို့ လှည့်၍ စားသူတို့ ဟု ဆိုအပ်ကုန်၏။

နှမ ငါကား မြေကြန်အတတ်ဟူသော (မင်္ဂဖိုလ်မှ) ဖီလာအတတ်ဖြင့် မှားသော အသက်မွေးခြင်းဖြင့် အသက် မမွေး၊ နက္ခတ်အတတ်ဟူသော (မင်္ဂဖိုလ်မှ) ဖီလာအတတ်ဖြင့် မှားသော အသက်မွေးခြင်းဖြင့် အသက် မမွေး၊ တမန်မှု အစေအပါး အမှုဖြင့် သွားခြင်းကို အားထုတ်ခြင်းဖြင့် မှားသော အသက် မွေးခြင်းဖြင့် အသက်မမွေး၊ အင်္ဂဝိဇ္ဇာ အတတ်ဟူသော (မင်္ဂဖိုလ်မှ) ဖီလာအတတ်ဖြင့် မှားသော အသက် မွေးခြင်းဖြင့် အသက် မမွေး၊ တရားသဖြင့် ဆွမ်းကို ရှာ၏၊ တရားသဖြင့် ဆွမ်းရှာ၍ စား၏ဟု မိန့်ဆို၏။

ထိုအခါ သုစိမုခီပရိဗိုဇ်မသည် ရာဇဂြိုဟ်ပြည်ဝယ် လမ်းမတစ်ခုမှ လမ်းမတစ်ခုသို့ လမ်းဆုံတစ်ခုမှ လမ်းဆုံတစ်ခုသို့ ချဉ်းကပ်ပြီးလျှင် "သာကီဝင်မင်းသား ဘုရားသားတော် ရဟန်းတို့သည် တရားနှင့် လျော်စွာ အစာကို စားကုန်၏၊ သာကီဝင် မင်းသား ဘုရားသားတော် ရဟန်းတို့သည် အပြစ် မရှိသော အားဖြင့် အစာကို စားကုန်၏၊ သာကီဝင်မင်းသား ဘုရား သားတော် ရဟန်းတို့အား ဆွမ်းလှူကြကုန်လော့" ဟု ဤသို့ ပြောကြားလေ၏။

**ဒသမသုတ်။**

**သာရိပုတ္တသံယုတ် ပြီး၏။**

------

# ခန္ဓဝဂ္ဂသံယုတ်ပါဠိတော်

## === ၈ - နာဂသံယုတ် ===

### ၁ - သုဒ္ဓိကသုတ်

၃၄၂။ သာဝတ္ထိနိဒါန်း။ ရဟန်းတို့ နဂါးမျိုးတို့သည် ဤလေးမျိုးတို့တည်း။ အဘယ်လေးမျိုးတို့နည်း- ဥ၌ ဖြစ်သော 'အဏ္ဍဇ' နဂါး၊ သားအိမ်၌ ဖြစ်သော 'ဇလာဗုဇ' နဂါး၊ အညစ်အကြေးတို့၌ ဖြစ်သော 'သံသေဒဇ' နဂါး၊ ကိုယ်ထင်ရှား ဖြစ်သော 'ဩပပါတိက' နဂါးတို့တည်း။ ရဟန်းတို့ နဂါးမျိုးတို့သည် ဤလေးမျိုးတို့တည်းဟု (ဟောတော်မူ၏)။

ပဌမသုတ်။

------

# ခန္ဓဝဂ္ဂသံယုတ်ပါဠိတော်

## === ၈ - နာဂသံယုတ် ===

### ၂ - ပဏီတတရသုတ်

၃၄၃။ သာဝတ္ထိနိဒါန်း။ ရဟန်းတို့ နဂါးမျိုးတို့သည် ဤလေးမျိုးတို့တည်း။ အဘယ်လေးမျိုးတို့နည်း - အဏ္ဍဇနဂါး၊ ဇလာဗုဇနဂါး၊ သံသေဒဇနဂါး၊ ဩပပါတိကနဂါးတို့တည်း။ ရဟန်းတို့ ထိုလေးမျိုးတို့တွင် အဏ္ဍဇနဂါးတို့ထက် ဇလာ ဗုဇနဂါး၊ သံသေဒဇနဂါး၊ ဩပပါတိကနဂါးတို့သည် သာ၍ မြတ်ကုန်၏။ ရဟန်းတို့ ထိုလေးမျိုးတို့တွင် အဏ္ဍဇနဂါး၊ ဇလာဗုဇနဂါးတို့ထက် သံသေဒဇနဂါး၊ ဩပပါတိကနဂါး တို့သည် သာ၍ မြတ်ကုန်၏။ ရဟန်းတို့ ထိုလေးမျိုးတို့တွင် အဏ္ဍဇနဂါး၊ ဇလာဗုဇနဂါး၊ သံသေဒဇနဂါး တို့ထက် ဩပပါတိကနဂါးတို့သည်သာ၍ မြတ်ကုန်၏။ ရဟန်းတို့ နဂါးမျိုးတို့ သည် ဤလေးမျိုး တို့တည်း ဟု (ဟောတော်မူ၏)။

ဒုတိယသုတ်။

------

# ခန္ဓဝဂ္ဂသံယုတ်ပါဠိတော်

## === ၈ - နာဂသံယုတ် ===

## ၃ - ဥပေါသထသုတ်

၃၄၄။ အခါတစ်ပါး၌ မြတ်စွာဘုရားသည် သာဝတ္ထိပြည် အနာထပိဏ်သူဌေး၏ အရံဖြစ်သော ဇေတဝန်ကျောင်း၌ (သီတင်းသုံး) နေတော်မူ၏၊ ထိုအခါ ရဟန်းတစ်ပါးသည် မြတ်စွာဘုရားထံသို့ ချဉ်းကပ်ပြီးလျှင် တစ်ခုသော နေရာ၌ ထိုင်နေ၍ မြတ်စွာဘုရားအား- "အသျှင်ဘုရား ဤလောက၌ အချို့သော အဏ္ဍဇနဂါးတို့ ဥပုသ် ကျင့်သုံးကြကာ ကိုယ်ကို စွန့်ထားခြင်း၏ အကြောင်းကား အဘယ်ပါနည်း၊ အထောက်အပံ့ကား အဘယ်ပါနည်း" ဟု ဤစကားကို လျှောက်၏။

ရဟန်း ဤလောက၌ အချို့သော အဏ္ဍဇနဂါးတို့အား ဤသို့ အကြံ ဖြစ်ပေါ်၏- " ငါတို့သည် ရှေးကကိုယ်ဖြင့် နှစ်မျိုးသော ကံကို ပြုခဲ့ကြ၏၊ နှုတ်ဖြင့် နှစ်မျိုးသော ကံကို ပြုခဲ့ကြ၏၊ စိတ်ဖြင့် နှစ်မျိုးသော ကံကို ပြုခဲ့ကြ၏၊ ထိုငါတို့သည် ကိုယ်ဖြင့် နှစ်မျိုးသော ကံကို ပြုခဲ့ကြကုန်သည် နှုတ်ဖြင့် နှစ်မျိုးသော ကံကို ပြုခဲ့ကြကုန်သည် စိတ်ဖြင့် နှစ်မျိုးသော ကံကို ပြုခဲ့ကြကုန်သည် ဖြစ်၍ ခန္ဓာကိုယ် ပျက်စီး၍ သေပြီးသည်မှ နောက်၌ အဏ္ဍဇနဂါးတို့၏ အသင်းဝင် အဖြစ်သို့ ရောက်ခဲ့ကြရကုန်၏၊ ငါတို့သည် ယနေ့ကိုယ်ဖြင့် ကောင်းသော အကျင့်ကို အကယ်၍ ကျင့်ကြရလျှင် နှုတ်ဖြင့် ကောင်းသော အကျင့်ကို အကယ်၍ ကျင့်ကြရလျှင် စိတ်ဖြင့် ကောင်းသော အကျင့်ကို အကယ်၍ ကျင့်ကြရလျှင် ခန္ဓာကိုယ် ပျက်စီး၍ သေပြီးသည်မှ နောက်၌ ကောင်းသော သူတို့၏ လားရာ နတ်ရွာလောကသို့ ရောက်ကြရ ပေကုန်အံ့၊ ယခုအခါ ငါတို့သည် ကိုယ်ဖြင့် ကောင်းသော အကျင့်ကို ကျင့်ကုန်အံ့၊ နှုတ်ဖြင့် ကောင်းသော အကျင့်ကို ကျင့်ကုန်အံ့၊ စိတ်ဖြင့် ကောင်းသော အကျင့်ကို ကျင့်ကုန်အံ့ " ဟု အကြံ ဖြစ်၏။

ရဟန်း ဤလောက၌ အချို့သော အဏ္ဍဇနဂါးတို့ ဥပုသ် ကျင့်သုံးကြကာ ကိုယ်ကို စွန့်ထားခြင်း၏ အကြောင်းကား ဤသည်ပင်တည်း၊ အထောက်အပံ့ကား ဤသည်ပင်တည်းဟု (ဟောတော်မူ၏)။

**တတိယသုတ်။**

------

## ၄ - ဒုတိယ ဥပေါသထသုတ်

၃၄၅။ သာဝတ္ထိနိဒါန်း။ ထိုအခါ ရဟန်းတစ်ပါးသည် မြတ်စွာဘုရားထံသို့။ပ။ တစ်ခုသော နေရာ၌ ထိုင်နေပြီး၍ မြတ်စွာဘုရားအား "အသျှင်ဘုရား ဤလောက၌ အချို့သော ဇလာဗုဇနဂါးတို့ ဥပုသ် ကျင့်သုံးကြကာ ကိုယ်ကို စွန့်ထား ခြင်း၏ အကြောင်းကား အဘယ်ပါနည်း၊ အထောက်အပံ့ကား အဘယ်ပါနည်း" ဟု ဤစကားကို လျှောက်၏။ [အားလုံးကို ချဲ့ရမည်]။

ရဟန်း ဤလောက၌ အချို့သော ဇလာဗုဇနဂါးတို့ ဥပုသ် ကျင့်သုံးကြကာ ကိုယ်ကို စွန့်ထားခြင်း၏ အကြောင်းကား ဤသည်ပင်တည်း၊ အထောက်အပံ့ကား ဤသည်ပင်တည်းဟု (ဟောတော်မူ၏)။

**စတုတ္ထသုတ်။**

------

# ခန္ဓဝဂ္ဂသံယုတ်ပါဠိတော်

## === ၈ - နာဂသံယုတ် ===

## ၅ - တတိယ ဥပေါသထသုတ်

၃၄၆။ သာဝတ္ထိနိဒါန်း။ တစ်ခုသော နေရာ၌ ထိုင်နေပြီးသော ထိုရဟန်းသည် မြတ်စွာဘုရားအား "အသျှင်ဘုရား ဤလောက၌ အချို့သော သံသေဒဇနဂါးတို့ ဥပုသ် ကျင့်သုံးကြကာ ကိုယ်ကို စွန့်ထားခြင်း၏ အကြောင်းကား အဘယ်ပါနည်း၊ အထောက်အပံ့ကား အဘယ်ပါနည်း" ဟု ဤစကားကို လျှောက်၏။

[အားလုံးကို ချဲ့ရမည်]။

ရဟန်း ဤလောက၌ အချို့သော သံသေဒဇနဂါးတို့ ဥပုသ် ကျင့်သုံးကြကာ ကိုယ်ကို စွန့်ထားခြင်း၏ အကြောင်းကား ဤသည်ပင်တည်း၊ အထောက်အပံ့ကား ဤသည်ပင်တည်းဟု (ဟောတော်မူ၏)။

**ပဉ္စမသုတ်။**

------

## ၆ - စတုတ္ထ ဥပေါသထသုတ်

၃၄၇။ သာဝတ္ထိနိဒါန်း။ တစ်ခုသော နေရာ၌ ထိုင်နေပြီးသော ထိုရဟန်းသည် မြတ်စွာဘုရားအား "အသျှင်ဘုရား ဤလောက၌ အချို့သော ဩပပါတိကနဂါးတို့ ဥပုသ် ကျင့်သုံးကြကာ ကိုယ်ကို စွန့်ထားခြင်း၏ အကြောင်းကား အဘယ်ပါ နည်း၊ အထောက်အပံ့ကား အဘယ်ပါနည်း" ဟု ဤစကားကို လျှောက်၏။

ရဟန်း ဤလောက၌ အချို့သော ဩပပါတိကနဂါးတို့အား ဤသို့ အကြံ ဖြစ်၏- "ငါတို့သည် ရှေးကကိုယ်ဖြင့် နှစ်မျိုးသော ကံကို ပြုခဲ့ကြကုန်၏၊ နှုတ်ဖြင့် နှစ်မျိုးသော ကံကို ပြုခဲ့ကြကုန်၏၊ စိတ်ဖြင့် နှစ်မျိုးသော ကံကို ပြုခဲ့ကြကုန်၏၊ ထိုငါတို့သည် ကိုယ်ဖြင့် နှစ်မျိုးသော ကံကို ပြုခဲ့ကြကုန်သည် နှုတ်ဖြင့် နှစ်မျိုးသော ကံကို ပြုခဲ့ကြကုန်သည် စိတ်ဖြင့် နှစ်မျိုးသော ကံကို ပြုခဲ့ကြကုန်သည် ဖြစ်၍ ခန္ဓာကိုယ် ပျက်စီး၍ သေပြီးသည်မှ နောက်၌ ဩပပါတိက နဂါးတို့၏ အသင်းဝင် အဖြစ်သို့ ရောက်ခဲ့ကြ၏။

ငါတို့သည် ယခုအခါကိုယ်ဖြင့် ကောင်းသော အကျင့်ကို အကယ်၍ ကျင့်ကြရလျှင် နှုတ်ဖြင့် ကောင်းသော အကျင့်ကို အကယ်၍ ကျင့်ကြရလျှင် စိတ်ဖြင့် ကောင်းသော အကျင့်ကို အကယ်၍ ကျင့်ကြရလျှင် ခန္ဓာကိုယ်ပျက်စီး၍ သေပြီးသည်မှ နောက်၌ ကောင်းသော သူတို့၏ လားရာ နတ်ရွာ လောကသို့ ရောက်ကြရပေကုန်အံ့။ ယခု အခါ ငါတို့သည် ကိုယ်ဖြင့် ကောင်းသော အကျင့်ကို ကျင့်ကုန်အံ့၊ နှုတ်ဖြင့် ကောင်းသော အကျင့်ကို ကျင့်ကုန်အံ့၊ စိတ်ဖြင့် ကောင်းသော အကျင့်ကို ကျင့်ကုန်အံ့" ဟု အကြံ ဖြစ်၏။

ရဟန်း ဤလောက၌ အချို့သော ဩပပါတိကနဂါးတို့ ဥပုသ် ကျင့်သုံးကြကာ ကိုယ်ကို စွန့်ထားခြင်း၏ အကြောင်း ကား ဤသည်ပင်တည်း၊ အထောက်အပံ့ကား ဤသည်ပင်တည်းဟု (ဟောတော်မူ၏)။

**ဆဋ္ဌသုတ်။**

------

# ခန္ဓဝဂ္ဂသံယုတ်ပါဠိတော်

## === ၈ - နာဂသံယုတ် ===

### ၇ - သုတသုတ်

၃၄၈။ သာဝတ္ထိနိဒါန်း။ တစ်ခုသော နေရာ၌ ထိုင်နေပြီးသော ထိုရဟန်းသည် မြတ်စွာဘုရားအား "အသျှင်ဘုရား ဤလောက၌ အချို့သော သူ၏ ခန္ဓာကိုယ်ပျက်စီး၍ သေပြီးသည်မှ နောက်၌ အဏ္ဍဇနဂါးတို့၏ အသင်းဝင် အဖြစ်သို့ ရောက်ရခြင်း၏ အကြောင်းကား အဘယ်ပါနည်း၊ အထောက်အပံ့ကား အဘယ်ပါနည်း" ဟု ဤစကားကို လျှောက်၏။

ရဟန်း ဤလောက၌ အချို့သော သူသည်ကိုယ်ဖြင့် နှစ်မျိုးသော ကံကို ပြု၏၊ နှုတ်ဖြင့် နှစ်မျိုးသော ကံကို ပြု၏၊ စိတ်ဖြင့် နှစ်မျိုးသော ကံကို ပြု၏၊ ထိုသူသည် "အဏ္ဍဇနဂါးတို့ကား အသက်ရှည်ကြ၏၊ အဆင်းလှကြ၏၊ ချမ်းသာ များကြ၏" ဟု ကြားအပ်ဖူး၏။ ထိုသူအား "ငါသည် ခန္ဓာကိုယ်ပျက်စီး၍ သေပြီးသည်မှ နောက်၌ အဏ္ဍဇနဂါးတို့၏ အသင်းဝင် အဖြစ်သို့ ရောက်ရမူ ကောင်းလေစွ" ဟု ဤသို့ အကြံဖြစ်၏၊ ထိုသူသည် ခန္ဓာကိုယ်ပျက်စီး၍ သေပြီးသည်မှ နောက်၌ အဏ္ဍဇနဂါးတို့၏ အသင်းဝင် အဖြစ်သို့ ရောက်ရ၏။

ရဟန်း ဤလောက၌ အချို့သော သူ၏ ခန္ဓာကိုယ်ပျက်စီး၍ သေပြီးသည်မှ နောက်၌ အဏ္ဍဇနဂါးတို့၏ အသင်းဝင် အဖြစ်သို့ ရောက်ရခြင်း၏ အကြောင်းကား ဤသည်ပင်တည်း၊ အထောက်အပံ့ကား ဤသည် ပင်တည်း ဟု (ဟောတော် မူ၏)။

**သတ္တမသုတ်။**

------

# ခန္ဓဝဂ္ဂသံယုတ်ပါဠိတော်

## === ၈ - နာဂသံယုတ် ===

### ၈ - ဒုတိယ သုတသုတ်

၃၄၉။ သာဝတ္ထိနိဒါန်း။ တစ်ခုသော နေရာ၌ ထိုင်နေပြီးသော ထိုရဟန်းသည် မြတ်စွာဘုရားအား "အသျှင်ဘုရား ဤလောက၌ အချို့သော သူ၏ ခန္ဓာကိုယ်ပျက်စီး၍ သေပြီးသည်မှ နောက်၌ ဇလာဗုဇနဂါးတို့၏ အသင်းဝင် အဖြစ်သို့ ရောက်ရခြင်း၏ အကြောင်းကား အဘယ်ပါနည်း၊ အထောက်အပံ့ကား အဘယ်ပါနည်း" ဟု ဤစကားကို လျှောက်၏။ပ။

ရဟန်း ဤလောက၌ အချို့သော သူ၏ ခန္ဓာကိုယ်ပျက်စီး၍ သေပြီးသည်မှ နောက်၌ ဇလာဗုဇနဂါးတို့၏ အသင်းဝင် အဖြစ်သို့ ရောက်ရခြင်း၏ အကြောင်းကား ဤသည်ပင်တည်း၊ အထောက်အပံ့ကား ဤသည် ပင်တည်း ဟု (ဟောတော် မူ၏)။

**အဋ္ဌမသုတ်။**

------

# ခန္ဓဝဂ္ဂသံယုတ်ပါဠိတော်

## === ၈ - နာဂသံယုတ် ===

### ၉ - တတိယ သုတသုတ်

၃၅၀။ သာဝတ္ထိနိဒါန်း။ တစ်ခုသော နေရာ၌ ထိုင်နေပြီးသော ထိုရဟန်းသည် မြတ်စွာဘုရားအား "အသျှင်ဘုရား ဤလောက၌ အချို့သော သူ၏ ခန္ဓာကိုယ်ပျက်စီး၍ သေပြီးသည်မှ နောက်၌ သံသေဒဇနဂါးတို့၏ အသင်းဝင် အဖြစ်သို့ ရောက်ရခြင်း၏ အကြောင်းကား အဘယ်ပါနည်း၊ အထောက်အပံ့ကား အဘယ်ပါနည်း" ဟု ဤစကားကို လျှောက်၏။ပ။

ရဟန်း ဤလောက၌ အချို့သော သူ၏ ခန္ဓာကိုယ်ပျက်စီး၍ သေပြီးသည်မှ နောက်၌ သံသေဒဇနဂါးတို့၏ အသင်းဝင် အဖြစ်သို့ ရောက်ရခြင်း၏ အကြောင်းကား ဤသည်ပင်တည်း၊ အထောက်အပံ့ကား ဤသည် ပင်တည်း ဟု (ဟောတော်မူ၏)။

**နဝမသုတ်။**

------

# ခန္ဓဝဂ္ဂသံယုတ်ပါဠိတော်

## === ၈ - နာဂသံယုတ် ===

### ၁၀ - စတုတ္ထ သုတသုတ်

၃၅၁။ သာဝတ္ထိနိဒါန်း။ တစ်ခုသော နေရာ၌ ထိုင်နေပြီးသော ထိုရဟန်းသည် မြတ်စွာဘုရားအား "အသျှင်ဘုရား ဤလောက၌ အချို့သော သူ၏ ခန္ဓာကိုယ်ပျက်စီး၍ သေပြီးသည်မှ နောက်၌ ဩပပါတိက နဂါးတို့၏ အသင်းဝင် အဖြစ် သို့ ရောက်ရခြင်း၏ အကြောင်းကား အဘယ်ပါနည်း၊ အထောက်အပံ့ကား အဘယ်ပါနည်း" ဟု ဤစကားကို လျှောက်၏။

ရဟန်း ဤလောက၌ အချို့သော သူသည်ကိုယ်ဖြင့် နှစ်မျိုးသော ကံကို ပြု၏၊ နှုတ်ဖြင့် နှစ်မျိုးသော ကံကို ပြု၏၊ စိတ်ဖြင့် နှစ်မျိုးသော ကံကို ပြု၏၊ ထိုသူသည် "ဩပပါတိကနဂါးတို့သည် အသက်ရှည်ကြ၏၊ အဆင်းလှကြ၏၊ ချမ်းသာ များကြ၏" ဟု ကြားအပ်ဖူး၏၊ ထိုသူအား "ငါသည် ခန္ဓာကိုယ်ပျက်စီး၍ သေပြီးသည်မှ နောက်၌ ဩပပါတိက နဂါးတို့၏ အသင်းဝင်အဖြစ်သို့ ရောက်ရမူ ကောင်းလေစွ" ဟု ဤသို့ အကြံ ဖြစ်၏၊ ထိုသူသည် ခန္ဓာကိုယ်ပျက်စီး၍ သေပြီးသည်မှ နောက်၌ ဩပပါတိကနဂါးတို့၏ အသင်းဝင် အဖြစ်သို့ ရောက်ရ၏။

ရဟန်း ဤလောက၌ အချို့သော သူ၏ ခန္ဓာကိုယ်ပျက်စီး၍ သေပြီးသည်မှ နောက်၌ ဩပပါတိကနဂါးတို့၏ အသင်းဝင် အဖြစ်သို့ ရောက်ရခြင်း၏ အကြောင်းကား ဤသည်ပင်တည်း၊ အထောက်အပံ့ကား ဤသည် ပင်တည်း ဟု (ဟောတော်မူ၏)။

**ဒသမသုတ်။**

------

# ခန္ဓဝဂ္ဂသံယုတ်ပါဠိတော်

## === ၈ - နာဂသံယုတ် ===

### ၁၁-၂၀ - အဏ္ဍဇဒါနူပကာရသုတ် ဆယ်သုတ်

၃၅၂-၃၆၁။ တစ်ခုသော နေရာ၌ ထိုင်နေပြီးသော ထိုရဟန်းသည် မြတ်စွာဘုရားအား "အသျှင်ဘုရား ဤလောက၌ အချို့သော သူ၏ ခန္ဓာကိုယ်ပျက်စီး၍ သေပြီးသည်မှ နောက်၌ အဏ္ဍဇနဂါးတို့၏ အသင်းဝင် အဖြစ်သို့ ရောက်ရခြင်း၏ အကြောင်းကား အဘယ်ပါနည်း၊ အထောက်အပံ့ကား အဘယ်ပါနည်း" ဟု ဤစကားကို လျှောက်၏။

ရဟန်း ဤလောက၌ အချို့သော သူသည်ကိုယ်ဖြင့် နှစ်မျိုးသော ကံကို ပြု၏၊ နှုတ်ဖြင့် နှစ်မျိုးသော ကံကို ပြု၏၊ စိတ်ဖြင့် နှစ်မျိုးသော ကံကို ပြု၏၊ ထိုသူသည် "အဏ္ဍဇနဂါးတို့သည် အသက်ရှည်ကြ၏၊ အဆင်းလှကြ၏၊ ချမ်းသာများကြ၏" ဟု ကြားအပ်ဖူး၏၊ ထိုသူအား "ငါသည် ခန္ဓာကိုယ်ပျက်စီး၍ သေပြီးသည်မှ နောက်၌ အဏ္ဍဇနဂါးတို့၏ အသင်းဝင် အဖြစ်သို့ ရောက်ရမူ ကောင်းလေစွ" ဟု ဤသို့ အကြံ ဖြစ်၏၊ ထိုသူသည် ထမင်းကို ပေးလှူ၏၊ ထိုသူသည် ခန္ဓာကိုယ် ပျက်စီး၍ သေပြီးသည်မှနောက်၌ အဏ္ဍဇနဂါးတို့၏ အသင်းဝင် အဖြစ်သို့ ရောက်ရ၏။ ရဟန်း ဤသည်ပင် အကြောင်း တည်း။ပ။ ထိုသူသည် အဖျော်ကို ပေးလှူ၏။ပ။ အဝတ်ကို ပေးလှူ၏။ပ။ ယာဉ်ကို ပေးလှူ၏။ပ။ ပန်းကို ပေးလှူ၏။ပ။ နံ့သာကို ပေးလှူ၏။ပ။ နံ့သာပျောင်းကို ပေးလှူ၏။ပ။ အိပ်ရာကို ပေးလှူ၏။ပ။ နေရာကျောင်းကို ပေးလှူ၏။ပ။ ဆီမီးကို ပေးလှူ၏။ပ။ ထိုသူသည် ခန္ဓာကိုယ်ပျက်စီး၍ သေပြီးသည်မှ နောက်၌ အဏ္ဍဇနဂါးတို့၏ အသင်းဝင် အဖြစ်သို့ ရောက်ရ၏။

ရဟန်း ဤလောက၌ အချို့သော သူ၏ ခန္ဓာကိုယ်ပျက်စီး၍ သေပြီးသည်မှ နောက်၌ အဏ္ဍဇနဂါးတို့၏ အသင်းဝင် အဖြစ်သို့ ရောက်ရခြင်း၏ အကြောင်းကား ဤသည်ပင်တည်း၊ အထောက်အပံ့ကား ဤသည် ပင်တည်း ဟု (ဟောတော်မူ၏)။

**ဝီသတိမသုတ်။**

------

# ခန္ဓဝဂ္ဂသံယုတ်ပါဠိတော်

## === ၈ - နာဂသံယုတ် ===

### ၂၁-၅၀ - ဇလာဗုဇာဒိဒါနူပကာရသုတ် သုံးဆယ်

၃၆၂-၃၉၁။ သာဝတ္ထိနိဒါန်း။ တစ်ခုသော နေရာ၌ ထိုင်နေပြီးသော ထိုရဟန်းသည် မြတ်စွာဘုရားအား "အသျှင်ဘုရား ဤလောက၌ အချို့သော သူ၏ ခန္ဓာကိုယ်ပျက်စီး၍ သေပြီးသည်မှ နောက်၌ ဇလာဗုဇနဂါးတို့၏။ပ။ သံသေဒဇနဂါးတို့၏။ပ။ ဩပပါတိကနဂါးတို့၏ အသင်းဝင် အဖြစ်သို့ ရောက်ရခြင်း၏ အကြောင်းကား အဘယ်ပါနည်း၊ အထောက် အပံ့ကား အဘယ်ပါနည်း" ဟု ဤစကားကို လျှောက်၏။

ရဟန်း ဤလောက၌ အချို့သော သူသည် ကိုယ်ဖြင့် နှစ်မျိုးသော ကံကို ပြု၏၊ နှုတ်ဖြင့် နှစ်မျိုးသော ကံကို ပြု၏၊ စိတ်ဖြင့် နှစ်မျိုးသော ကံကို ပြု၏၊ ထိုသူသည် "ဩပပါတိကနဂါးတို့သည် အသက်ရှည် ကုန်၏၊ အဆင်းလှကုန်၏၊ ချမ်းသာ များကုန်၏" ဟု ကြားအပ်ဖူး၏။ ထိုသူအား "ငါသည် ခန္ဓာကိုယ် ပျက်စီး၍ သေပြီးသည်မှ နောက်၌ ဩပပါတိကနဂါးတို့၏ အသင်းဝင်အဖြစ်သို့ ရောက်ရမူ ကောင်းလေစွ" ဟု ဤသို့ အကြံ ဖြစ်၏။ ထိုသူသည် ထမင်းကို ပေးလှူ၏။ပ။ အဖျော်ကို ပေးလှူ၏။ပ။ ဆီမီးကို ပေးလှူ၏။ပ။ ထိုသူသည် ခန္ဓာကိုယ်ပျက်စီး၍ သေပြီးသည်မှ နောက်၌ ဩပပါတိကနဂါးတို့၏ အသင်းဝင် အဖြစ်သို့ ရောက်ရ၏။

ရဟန်း ဤလောက၌ အချို့သော သူ၏ ခန္ဓာကိုယ်ပျက်စီး၍ သေပြီးသည်မှ နောက်၌ ဩပပါတိကနဂါးတို့၏ အသင်းဝင် အဖြစ်သို့ ရောက်ရခြင်း၏ အကြောင်းကား ဤသည်ပင်တည်း၊ အထောက်အပံ့ကား ဤသည်ပင်တည်းဟု (မိန့်တော်မူ၏)။

[ဤပေယျာလဖြင့် ဆယ်သုတ် ဆယ်သုတ်တို့ကို ပြုအပ်ကုန်၏၊ ဤသို့လျှင် ယောနိလေးပါးတို့၌ အဖြေလေးဆယ်တို့ ဖြစ်ကုန်၏၊ ရှေးဆယ်သုတ်တို့နှင့်တကွ သုတ်ပေါင်း ငါးဆယ် ဖြစ်၏။]

**နာဂသံယုတ် ပြီး၏။**

------

# ခန္ဓဝဂ္ဂသံယုတ်ပါဠိတော်

## === ၉ - သုပဏ္ဏသံယုတ် ===

### ၁ - သုဒ္ဓိကသုတ်

၃၉၂။ သာဝတ္ထိနိဒါန်း။ ရဟန်းတို့ ဂဠုန်မျိုးတို့သည် ဤလေးမျိုးတည်း။ အဘယ်လေးမျိုးတို့နည်း ဟူမူ- ဥ၌ ဖြစ်သော 'အဏ္ဍဇ' ဂဠုန်၊ သားအိမ်၌ ဖြစ်သော 'ဇလာဗုဇ' ဂဠုန်၊ အညစ်အကြေးတို့၌ ဖြစ်သော 'သံသေဒဇ' ဂဠုန်၊ ကိုယ်ထင်ရှား ဖြစ်သော 'ဩပပါတိက' ဂဠုန်တို့တည်း။ ရဟန်းတို့ ဂဠုန်တို့သည် ဤလေးမျိုး တို့တည်း ဟု (ဟောတော်မူ၏)။

ပဌမသုတ်။

------

# ခန္ဓဝဂ္ဂသံယုတ်ပါဠိတော်

## === ၉ - သုပဏ္ဏသံယုတ် ===

### ၂ - ဟရန္တိသုတ်

၃၉၃။ သာဝတ္ထိနိဒါန်း။ ရဟန်းတို့ ဂဠုန်မျိုးတို့သည် ဤလေးမျိုးတို့တည်း။ အဘယ်လေးမျိုးတို့နည်း ဟူမူ- အဏ္ဍဇဂဠုန်။ပ။ ရဟန်းတို့ ဂဠုန်တို့သည် ဤလေးမျိုးတို့တည်း။ ရဟန်းတို့ ထိုလေးမျိုးတို့တွင် အဏ္ဍဇဂဠုန်တို့သည် အဏ္ဍဇနဂါး တို့ကိုသာ သုတ်ချီနိုင်ကုန်၏၊ ဇလာဗုဇနဂါး သံသေဒဇနဂါး ဩပပါတိကနဂါးတို့ကို မသုတ်ချီနိုင်ကုန်။ ရဟန်းတို့ ဇလာဗုဇ ဂဠုန်တို့သည် အဏ္ဍဇနဂါး ဇလာဗုဇနဂါး တို့ကိုသာ သုတ်ချီနိုင်ကုန်၏၊ သံသေဒဇနဂါး ဩပပါတိကနဂါးတို့ကို မသုတ်ချီ နိုင်ကုန်။ ရဟန်းတို့ သံသေဒဇဂဠုန်တို့သည် အဏ္ဍဇနဂါး ဇလာဗုဇနဂါး သံသေဒဇနဂါးတို့ကိုသာ သုတ်ချီနိုင်ကုန်၏၊ ဩပပါတိကနဂါးတို့ကို မသုတ်ချီနိုင်ကုန်။ ရဟန်းတို့ ဩပပါတိကဂဠုန်တို့သည် အဏ္ဍဇနဂါး ဇလာဗုဇ နဂါး သံသေဒဇနဂါး ဩပပါတိကနဂါးတို့ကို သုတ်ချီနိုင်ကုန်၏။ ရဟန်းတို့ ဂဠုန်တို့သည် ဤလေးမျိုး တို့တည်း ဟု (ဟောတော်မူ၏)။

ဒုတိယသုတ်။

------

# ခန္ဓဝဂ္ဂသံယုတ်ပါဠိတော်

## === ၉ - သုပဏ္ဏသံယုတ် ===

## ၃ - ဒွယကာရီသုတ်

၃၉၄။ သာဝတ္ထိနိဒါန်း။ ရဟန်းတစ်ပါးသည် မြတ်စွာဘုရားထံသို့ ချဉ်းကပ်ပြီးနောက် ရှိခိုး၍ တစ်ခုသော နေရာ၌ ထိုင်နေပြီးလျှင် မြတ်စွာဘုရားအား "အသျှင်ဘုရား ဤလောက၌ အချို့သော သူ၏ ခန္ဓာကိုယ် ပျက်စီး၍ သေပြီးသည်မှ နောက်၌ အဏ္ဍဇဂဠုန်တို့၏ အသင်းဝင် အဖြစ်သို့ ရောက်ရခြင်း၏ အကြောင်းကား အဘယ်ပါနည်း၊ အထောက်အပံ့ကား အဘယ်ပါနည်း" ဟု ဤစကားကို လျှောက်၏။

ရဟန်း ဤလောက၌ အချို့သော သူသည်ကိုယ်ဖြင့် နှစ်မျိုးသော ကံကို ပြု၏၊ နှုတ်ဖြင့် နှစ်မျိုးသော ကံကို ပြု၏၊ စိတ်ဖြင့် နှစ်မျိုးသော ကံကို ပြု၏၊ ထိုသူသည် "အဏ္ဍဇဂဠုန်တို့သည် အသက်ရှည်ကြ၏၊ အဆင်းလှကြ၏၊ ချမ်းသာများ ကြ၏" ဟု ကြားအပ်ဖူး၏၊ ထိုသူအား "ငါသည် ခန္ဓာကိုယ်ပျက်စီး၍ သေပြီးသည်မှ နောက်၌ အဏ္ဍဇဂဠုန်တို့၏ အသင်းဝင် အဖြစ်သို့ ရောက်ရမူ ကောင်းလေစွ" ဟု ဤသို့ အကြံဖြစ်၏၊ ထိုသူသည် ခန္ဓာကိုယ် ပျက်စီး၍ သေပြီးသည်မှ နောက်၌ အဏ္ဍဇဂဠုန်တို့၏ အသင်းဝင် အဖြစ်သို့ ရောက်ရ၏။

ရဟန်း ဤလောက၌ အချို့သော သူ၏ ခန္ဓာကိုယ် ပျက်စီး၍ သေပြီးသည်မှ နောက်၌ အဏ္ဍဇဂဠုန်တို့၏ အသင်းဝင် အဖြစ်သို့ ရောက်ရခြင်း၏ အကြောင်းကား ဤသည်ပင်တည်း၊ အထောက်အပံ့ကား ဤသည်ပင်တည်းဟု (ဟောတော် မူ၏)။

**တတိယသုတ်။**

------

# ခန္ဓဝဂ္ဂသံယုတ်ပါဠိတော်

## === ၉ - သုပဏ္ဏသံယုတ် ===

### ၄-၆ - ဒုတိယာဒိ ဒွယကာရီသုတ် သုံးသုတ်

၃၉၅-၃၉၇။ သာဝတ္ထိနိဒါန်း။ တစ်ခုသော နေရာ၌ ထိုင်နေပြီးသော ထိုရဟန်းသည် မြတ်စွာဘုရားအား "အသျှင် ဘုရား ဤလောက၌ အချို့သော သူ၏ ခန္ဓာကိုယ် ပျက်စီး၍ သေပြီးသည်မှ နောက်၌ ဇလာဗုဇဂဠုန်။ပ။ သံသေဒဇဂဠုန် ။ပ။ ဩပပါတိကဂဠုန်တို့၏ အသင်းဝင် အဖြစ်သို့ ရောက်ရခြင်း၏ အကြောင်းကား အဘယ်ပါနည်း၊ အထောက်အပံ့ကား အဘယ်ပါနည်း" ဟု ဤစကားကို လျှောက်၏။

ရဟန်း ဤလောက၌ အချို့သော သူသည်ကိုယ်ဖြင့် နှစ်မျိုးသော ကံကို ပြု၏၊ နှုတ်ဖြင့် နှစ်မျိုးသော ကံကို ပြု၏၊ စိတ်ဖြင့် နှစ်မျိုးသော ကံကို ပြု၏၊ ထိုသူသည် "ဩပပါတိကဂဠုန်တို့သည် အသက်ရှည်ကြ၏၊ အဆင်းလှကြ၏၊ ချမ်းသာ များကြ၏ " ဟု ကြားအပ်ဖူး၏၊ ထိုသူအား "ငါသည် ခန္ဓာကိုယ်ပျက်စီး၍ သေပြီးသည်မှ နောက်၌ ဩပပါတိကဂဠုန်တို့ ၏ အသင်းဝင် အဖြစ်သို့ ရောက်ရမူကောင်းလေစွ" ဟု ဤသို့ အကြံ ဖြစ်၏၊ ထိုသူသည် ခန္ဓာကိုယ် ပျက်စီး၍ သေပြီး သည်မှ နောက်၌ ဩပပါတိကဂဠုန်တို့၏ အသင်းဝင် အဖြစ်သို့ ရောက်ရ၏။

ရဟန်း ဤလောက၌ အချို့သော သူ၏ ခန္ဓာကိုယ် ပျက်စီး၍ သေပြီးသည်မှ နောက်၌ ဩပပါတိကဂဠုန်တို့၏ အသင်းဝင် အဖြစ်သို့ ရောက်ရခြင်း၏ အကြောင်းကား ဤသည်ပင်တည်း၊ အထောက်အပံ့ကား ဤသည်ပင်တည်းဟု (ဟောတော်မူ၏)။

ဆဋ္ဌသုတ်။

------

# ခန္ဓဝဂ္ဂသံယုတ်ပါဠိတော်

## === ၉ - သုပဏ္ဏသံယုတ် ===

### ၇-၁၆ - အဏ္ဍဇဒါနူပကာရသုတ် ဆယ်သုတ်

၃၉၈-၄၀၇။ သာဝတ္ထိနိဒါန်း။ တစ်ခုသော နေရာ၌ ထိုင်နေပြီးသော ထိုရဟန်းသည် မြတ်စွာဘုရားအား "အသျှင်ဘုရား ဤလောက၌ အချို့သောသူ၏ ခန္ဓာကိုယ် ပျက်စီး၍ သေပြီးသည်မှ နောက်၌ အဏ္ဍဇဂဠုန်တို့၏ အသင်းဝင် အဖြစ်သို့ ရောက်ရခြင်း၏ အကြောင်းကား အဘယ်ပါနည်း၊ အထောက်အပံ့ကား အဘယ်ပါနည်း" ဟု ဤစကားကို လျှောက်၏။

ရဟန်း ဤလောက၌ အချို့သော သူသည် ကိုယ်ဖြင့် နှစ်မျိုးသော ကံကို ပြု၏၊ နှုတ်ဖြင့် နှစ်မျိုးသော ကံကို ပြု၏၊ စိတ်ဖြင့် နှစ်မျိုးသော ကံကို ပြု၏၊ ထိုသူသည် "အဏ္ဍဇဂဠုန်တို့သည် အသက်ရှည်ကြ၏၊ အဆင်းလှကြ၏၊ ချမ်းသာ များကြ၏" ဟု ကြားအပ်ဖူး၏၊ ထိုသူအား "ငါသည် ခန္ဓာကိုယ်ပျက် စီး၍ သေပြီးသည်မှ နောက်၌ အဏ္ဍဇဂဠုန်တို့၏ အသင်းဝင် အဖြစ်သို့ ရောက်ရမူ ကောင်းလေစွ" ဟု ဤသို့ အကြံ ဖြစ်၏။ ထိုသူသည် ထမင်းကို ပေးလှူ၏။ပ။ အဖျော်ကို ပေးလှူ၏။

အဝတ်ကို ပေးလှူ၏။ ယာဉ်ကို ပေးလှူ၏။ ပန်းကို ပေးလှူ၏။ နံ့သာကို ပေးလှူ၏။ နံ့သာပျောင်းကို ပေးလှူ၏။ အိပ်ရာကို ပေးလှူ၏။ နေရာကျောင်းကို ပေးလှူ၏။ ဆီမီးကို ပေးလှူ၏။ ထိုသူသည် ခန္ဓာကိုယ် ပျက်စီး၍ သေပြီးသည်မှ နောက်၌ အဏ္ဍဇဂဠုန်တို့၏ အသင်းဝင် အဖြစ်သို့ ရောက်ရ၏။

ရဟန်း ဤလောက၌ အချို့သော သူ၏ ခန္ဓာကိုယ် ပျက်စီး၍ သေပြီးသည်မှ နောက်၌ အဏ္ဍဇဂဠုန်တို့၏ အသင်းဝင် အဖြစ်သို့ ရောက်ရခြင်း၏ အကြောင်းကား ဤသည်ပင်တည်း၊ အထောက်အပံ့ကား ဤသည် ပင်တည်း ဟု (ဟောတော်မူ၏)။

**သောဠသမသုတ်။**

------

# ခန္ဓဝဂ္ဂသံယုတ်ပါဠိတော်

## === ၉ - သုပဏ္ဏသံယုတ် ===

### ၁၇-၄၆ - ဇလာဗုဇဒါနူပကာရသုတ်

၄၀၈-၄၃၇။ သာဝတ္ထိနိဒါန်း။ တစ်ခုသော နေရာ၌ ထိုင်နေပြီးသော ထိုရဟန်းသည် မြတ်စွာဘုရားအား "အသျှင် ဘုရား ဤလောက၌ အချို့သော သူ၏ ခန္ဓာကိုယ် ပျက်စီး၍ သေပြီးသည်မှ နောက်၌ ဇလာဗုဇဂဠုန်တို့၏။ပ။ သံသေဒဇ ဂဠုန်တို့၏။ပ။ ဩပပါတိကဂဠုန်တို့၏ အသင်းဝင် အဖြစ်သို့ ရောက်ရခြင်း၏ အကြောင်းကား အဘယ်ပါနည်း၊ အထောက် အပံ့ကား အဘယ်ပါနည်း" ဟု ဤစကားကို လျှောက်၏။

ရဟန်း ဤလောက၌ အချို့သော သူသည် ကိုယ်ဖြင့် နှစ်မျိုးသော ကံကို ပြု၏၊ နှုတ်ဖြင့် နှစ်မျိုးသော ကံကို ပြု၏၊ စိတ်ဖြင့် နှစ်မျိုးသော ကံကို ပြု၏၊ ထိုသူသည် "ဩပပါတိကဂဠုန်တို့သည် အသက်ရှည်ကြ၏၊ အဆင်းလှကြ၏၊ ချမ်းသာ များကြ၏" ဟု ကြားအပ်ဖူး၏၊ ထိုသူအား "ငါသည် ခန္ဓာကိုယ်ပျက် စီး၍ သေပြီးသည်မှ နောက်၌ ဩပပါတိကဂဠုန်တို့၏ အသင်းဝင် အဖြစ်သို့ ရောက်ရမူကောင်းလေစွ" ဟု ဤသို့ အကြံ ဖြစ်၏။ ထိုသူသည် ထမင်းကို ပေးလှူ၏။ပ။ အဖျော်ကို ပေးလှူ၏။ပ။ ဆီမီးကို ပေးလှူ၏။ပ။ ထိုသူသည် ခန္ဓာကိုယ်ပျက်စီး၍ သေပြီးသည်မှ နောက်၌ ဩပပါတိကဂဠုန်တို့၏ အသင်းဝင်အဖြစ်သို့ ရောက်ရ၏။

ရဟန်း ဤလောက၌ အချို့သော သူ၏ ခန္ဓာကိုယ် ပျက်စီး၍ သေပြီးသည်မှ နောက်၌ ဩပပါတိကဂဠုန်တို့၏ အသင်းဝင် အဖြစ်သို့ ရောက်ရခြင်း၏ အကြောင်းကား ဤသည်ပင်တည်း၊ အထောက်အပံ့ကား ဤသည်ပင်တည်းဟု (ဟောတော်မူ၏)။

**ဆစတ္တာလီသမသုတ်။**

[ ဤသို့ အပေါင်းအားဖြင့် လေးဆယ့်ခြောက်သုတ်တို့ ဖြစ်ကုန်၏။ ]

**သုပဏ္ဏသံယုတ် ပြီး၏။**

------

# ခန္ဓဝဂ္ဂသံယုတ်ပါဠိတော်

## === ၁၀ - ဂန္ဓဗ္ဗကာယသံယုတ် ===

### ၁ - သုဒ္ဓိကသုတ်

၄၃၈။ အခါတစ်ပါး၌ မြတ်စွာဘုရားသည် သာဝတ္ထိပြည် အနာထပိဏ်သူဌေး၏ အရံဖြစ်သော ဇေတဝန်ကျောင်း၌ (သီတင်းသုံး) နေတော်မူ၏။ပ။ မြတ်စွာဘုရားသည် ဤစကားကို မိန့်တော်မူ၏- "ရဟန်းတို့သင်တို့အား ဂန္ဓဗ္ဗနတ်မျိုးတို့ကို ဟောအံ့၊ ထိုတရားကို နာကြကုန်လော့။ ရဟန်းတို့ ဂန္ဓဗ္ဗနတ်မျိုးတို့ဟူသည် အဘယ်တို့နည်း ဟူမူ- ရဟန်းတို့ အမြစ်နံ့သာ၌ အစိုးရသော နတ်တို့ ရှိကုန်၏၊ အနှစ်နံ့သာ၌ အစိုးရသော နတ်တို့ ရှိကုန်၏၊ အကာနံ့သာ၌ အစိုးရသော နတ်တို့ ရှိကုန် ၏၊ အခေါက်နံ့သာ၌ အစိုးရသော နတ်တို့ ရှိကုန်၏၊ အပွေးနံ့သာ၌ အစိုးရသော နတ်တို့ ရှိကုန်၏၊ အရွက်နံ့သာ၌ အစိုးရသော နတ်တို့ ရှိကုန်၏၊ အပွင့်နံ့သာ၌ အစိုးရသော နတ်တို့ ရှိကုန်၏၊ အသီးနံ့သာ၌ အစိုးရသော နတ်တို့ ရှိကုန်၏၊ အရည်နံ့သာ၌ အစိုးရသော နတ်တို့ ရှိကုန်၏၊ အနံ့ နံ့သာ၌ အစိုးရသော နတ်တို့ ရှိကုန်၏။ ရဟန်းတို့ ဤနတ်တို့ကို ဂန္ဓဗ္ဗနတ်မျိုးတို့" ဟူ၍ ဆိုအပ်ကုန်၏ ဟု (မိန့်တော်မူ၏)။

ပဌမသုတ်။

------

### ၂ - သုစရိတသုတ်

၄၃၉။ သာဝတ္ထိနိဒါန်း။ တစ်ခုသော နေရာ၌ ထိုင်နေပြီးသော ထိုရဟန်းသည် မြတ်စွာဘုရားအား "အသျှင်ဘုရား ဤလောက၌ အချို့သော သူ၏ ခန္ဓာကိုယ်ပျက်စီး၍ သေပြီးသည်မှ နောက်၌ ဂန္ဓဗ္ဗနတ်တို့၏ အသင်းဝင် အဖြစ်သို့ ရောက်ရခြင်း၏ အကြောင်းကား အဘယ်ပါနည်း၊ အထောက်အပံ့ကား အဘယ်ပါနည်း" ဟု ဤစကားကို လျှောက်၏။

ရဟန်း ဤလောက၌ အချို့သော သူသည်ကိုယ်ဖြင့် နှစ်မျိုးသော ကံကို ပြု၏၊ နှုတ်ဖြင့် နှစ်မျိုးသော ကံကို ပြု၏၊ စိတ်ဖြင့် နှစ်မျိုးသော ကံကို ပြု၏၊ ထိုသူသည် "ဂန္ဓဗ္ဗနတ်တို့သည် အသက်ရှည်ကြ၏၊ အဆင်းလှကြ၏၊ ချမ်းသာများကြ၏" ဟု ကြားအပ်ဖူး၏၊ ထိုသူအား "ငါသည် ခန္ဓာကိုယ်ပျက်စီး၍ သေပြီးသည်မှ နောက်၌ ဂန္ဓဗ္ဗနတ်တို့၏ အသင်းဝင် အဖြစ်သို့ ရောက်ရမူ ကောင်းလေစွ" ဟု ဤသို့ အကြံ ဖြစ်၏၊ ထိုသူသည် ခန္ဓာကိုယ် ပျက်စီး၍ သေပြီးသည်မှ နောက်၌ ဂန္ဓဗ္ဗနတ်တို့၏ အသင်းဝင် အဖြစ်သို့ ရောက်ရ၏။

ရဟန်း ဤလောက၌ အချို့သော သူ၏ ခန္ဓာကိုယ် ပျက်စီး၍ သေပြီးသည်မှ နောက်၌ ဂန္ဓဗ္ဗနတ်တို့၏ အသင်းဝင် အဖြစ်သို့ ရောက်ရခြင်း၏ အကြောင်းကား ဤသည်ပင်တည်း၊ အထောက်အပံ့ကား ဤသည်ပင်တည်းဟု (ဟောတော် မူ၏)။

ဒုတိယသုတ်။

------

# ခန္ဓဝဂ္ဂသံယုတ်ပါဠိတော်

## === ၁၀ - ဂန္ဓဗ္ဗကာယသံယုတ် ===

### ၃ - မူလဂန္ဓဒါတာသုတ်

၄၄၀။ သာဝတ္ထိနိဒါန်း။ တစ်ခုသော နေရာ၌ ထိုင်နေပြီးသော ထိုရဟန်းသည် မြတ်စွာဘုရားအား "အသျှင်ဘုရား ဤလောက၌ အချို့သော သူ၏ ခန္ဓာကိုယ် ပျက်စီး၍ သေပြီးသည်မှ နောက်၌ အမြစ်နံ့သာ၌ အစိုးရသော နတ်တို့၏ အသင်းဝင် အဖြစ်သို့ ရောက်ရခြင်း၏ အကြောင်းကား အဘယ်ပါနည်း၊ အထောက်အပံ့ကား အဘယ်ပါနည်း" ဟု ဤစကားကို လျှောက်၏။

ရဟန်း ဤလောက၌ အချို့သော သူသည် ကိုယ်ဖြင့် ကောင်းသော အကျင့်ကို ကျင့်၏၊ နှုတ်ဖြင့် ကောင်းသော အကျင့်ကို ကျင့်၏၊ စိတ်ဖြင့် ကောင်းသော အကျင့်ကို ကျင့်၏။ ထိုသူသည် "အမြစ်နံ့သာ၌ အစိုးရသော နတ်တို့သည် အသက်ရှည်ကြ၏၊ အဆင်းလှကြ၏၊ ချမ်းသာများကြ၏" ဟု ကြားအပ်ဖူး၏၊ ထိုသူအား "ငါသည် ခန္ဓာကိုယ် ပျက်စီး၍ သေပြီးသည်မှ နောက်၌ အမြစ်နံ့သာ၌ အစိုးရသော နတ်တို့၏ အသင်းဝင် အဖြစ်သို့ ရောက်ရမူ ကောင်းလေစွ" ဟု ဤသို့ အကြံ ဖြစ်၏၊ ထိုသူသည် အမြစ်နံ့သာကို ပေးလှူ၏၊ ထိုသူသည် ခန္ဓာကိုယ်ပျက်စီး၍ သေပြီးသည်မှ နောက်၌ အမြစ်နံ့သာ၌ အစိုးရသော နတ်တို့၏ အသင်းဝင် အဖြစ်သို့ ရောက်ရ၏။

ရဟန်း ဤလောက၌ အချို့သော သူ၏ ခန္ဓာကိုယ် ပျက်စီး၍ သေပြီးသည်မှ နောက်၌ အမြစ်နံ့သာ၌ အစိုးရသော နတ်တို့၏ အသင်းဝင် အဖြစ်သို့ ရောက်ရခြင်း၏ အကြောင်းကား ဤသည်ပင်တည်း၊ အထောက်အပံ့ကား ဤသည်ပင် တည်းဟု (မိန့်တော်မူ၏)။

**တတိယသုတ်။**

------

